မဟာသံဃရာဇာ(သာသနာပိုင်)

# အရှင်မဟာရဋ္ဌသာရ အဋ္ဌုပ္ပတ္တိ

# နှင့်

# ကိုးခဏ်းပျို့စံချိန်

# အဝခေတ် ကဗျာစစ်ပွဲကြီး

# ရှင်သီလဝံသနှင့်ရှင်ရဋ္ဌသာရပုဂ္ဂိုလ်ကျော်နှစ်ပါး

# နှိုင်းယှဉ်ချက်


## ဆရာမာဃ



ရန်ကုန်မြို့

အမှတ်–၁၃၉/၁၄၁၊ လမ်း–၅၀

ဂန္ဓမာစာပုံနှိပ်တိုက်

၁၉၅၇–ခု။

မဟာသံဃရာဇာ(သာသနာပိုင်)

# အရှင်မဟာရဋ္ဌသာရ အဋ္ဌုပ္ပတ္တိ

မြန်မာ့ကဗျာဘုရင် စာသခင်တို့၏ပျော်မွေ့ရာဖြစ်သော ရတနာပူရ အဝ(အင်းဝ)ရွှေမြို့တော်ကို စတင်တည်ထောင်ခဲ့သော ပုဂ္ဂိုလ်ကား သတိုးမင်းဖျား(၇၂၆–၇၂၉) ဟူသော အမည်ဖြင့် ထင်ရှားကျော်စောသော ဘုရင်မင်းမြတ် ဖြစ်ပေသည်။

ထိုမြို့တော်သည် ဧရာဝတီမြစ် ဒုဋ္ဌာဝတီခေါ် မြစ်ငယ်မြစ်နှင့်မြစ်သားခေါ် ချောင်းတို့က သုံးဖက်သုံးတန် ဝိုင်းရံလျက် ရှိသောကြောင့် ကြက်လျှာစွန်းနှင့်ငင်း၊ သံလျက်နှင့်ငင်း၊ ပုံနေတူလှသော ကျွန်းကလေးပေါ်၌ တည်ရှိခဲ့လေသည်။

အဝဘုရင်တို့တွင် သတိုးမင်းဖျားမှ ထောက်သော် ဆဲ့တဆက်မြောက်ဖြစ်သော ပြည်စုန်မင်း မဟာသီဟသူရ(၈၃၀–၈၄၂) ရွှေနန်းတက်တော်မူသောနှစ် ဖြစ်သည့်သကရာဇ် ၈၃၀ ပြည့် ဝါဆိုလသည်ကား မြန်မာစာပေလောကအတွက် အလွန်ပင် ကြက်သရေ မင်္ဂလာရှိသောနှစ် အလွန်ပင်ကြက်သရေမင်္ဂလာရှိသောလ ဖြစ်သည်ဟု ဆိုရပေလိမ့်မည်။ အဘယ့်ကြောင့်ဆိုသော် “ရဋ္ဌသာရ၊ ခ,တြိန်း,အဋ္ဌ၊ ဖွားလတ်သက္ကရာ”ဟူသော ဆောင်ပုဒ်နှင့်အညီ ထိုနှစ် ထိုလဝယ် မြန်မာကဗျာစာပေလောက၏ရှေ့သွား ခေါင်းဆောင် ဖြစ်သော ကဗျာစာပေများကိုငင်း မြန်မာစာပေလောက၏ရှေ့သွား ခေါင်းဆောင် ဖြစ်သော ကဗျာစာပေများတွင် အကောင်းဆုံး စံချိန်ဖြစ်သည့် ကိုးခဏ်းပျို့ကိုငင်း စပ်ဆိုတော်မူလတ့်သော ရှင်ရဋ္ဌသာရ၏အလောင်း မောင်မောက်ကို မွေးဖွားခဲ့သောကြောင့်ပေတည်း။

မောင်မောက်၏ခမည်းတော်ကား ဓမ္မပါလ အမည်ရှိသော အမတ်ပေတည်း။ ဗညားရန်၏သား "ပုသိမ်မြို့စား" ဗညားအိန်သည် ထင်ရှားကျော်ကြားသော မွန်ဘုရင်မကြီး ရှင်စောပု၏တူသမက် ဖြစ်လေသည်။ ထိုဗညားအိန်သည် အမတ်မင်းဓမ္မပါလ၏အဖိုးပေတည်း။ အဝကို စတင်တည်ထောင်တော်မူသော သတိုးမင်းဖျား၏မြောက်နန်းမိဖုရား စောမင်းညိုမှ မွေးဖွားသည့်သမီးတော်ကား စောနန်းဟုခေါ်တွင်၏။ စောနန်း၏မြစ်တော်,(မြေးတော်?)သည် မောင်မောက်၏မယ်တော်ပေတည်း။ (စောနန်းသည် သတိုးမင်းဖျား၏အရီးတော်ဟုလည်း ဆိုကြ၏။)

ဤသို့လျှင် ရှင်မဟာရဋ္ဌသာရသည် မျိုးရိုး"ဇာတိ"အားဖြင့်လည်း ကြီးကျယ်မြင့်မြတ်ပါပေ၏။ "ရွှေနန်းတော်ထက်၊ ငါးနှစ်သက်က၊ လေ့ကျက်ခဲ့မြောက်"ဟူသော ကိုးခဏ်းနှင့်အညီ မောင်မောက်သည် ငါးနှစ်သားအရွယ်ကစတင်၍ ရွှေနန်းတော်အတွင်း၌ သားတော်, သမီးတော်, ဆွေတော်, မျိုးတော်အပေါင်းတို့နှင့်အတူ စာပေပညာများကို သင်ကြားဆည်းပူးခဲ့ရလေသည်။ (တနည်း)မောင်မောက်သည် ခေတ်ကာလအလျောက် အတော်ဆုံးဆရာများထံမှ အကောင်းဆုံးနည်းများဖြင့် အသင့်လျော်ဆုံး ပညာများကို သင်ကြားခွင့်ရရှိသည်ဟု ဆိုရပေမည်။ ရှစ်နှစ်သားအရွယ်တွင် ခမည်းတော်, မယ်တော်တို့က ဒုတိယမင်းခေါင်(၈၄၂–၈၆၃)အား သားအမှတ်မွေးမြူရန် အပ်နှံကြလေ၏။ ဒုတိယမင်းခေါင်ကလည်း များစွာ ချစ်ခင်လေးစားတော်မူလေသည်။

ဤသို့လျှင် ရှင်ရဋ္ဌသာရသည် ငယ်စဉ်ကပင် ပုဉ်းကံ(ပုည)ရှိခဲ့ပေ၏။

"ပညာပွါးဘို့၊ ကုသိုလ်ပို့သား၊ ငါတို့ဖွားရာ" ဟူသော ကိုးခဏ်းနှင့်အညီ မည်သို့ပင် နေရာကောင်း(အရပ်ကောင်း)၌ နေရစေဦးတော့ ပင်ကိုယ်ဉာဏ် ထက်သန်သူ မဟုတ်ဘဲ ထုံထိုင်းလှသူဖြစ်ပါက မည်သည့်ပညာကိုမဆို "ပေးတိုင်းမရ–ရတိုင်း မယူနိုင်"ဆိုသကဲ့သို့ ရှိရပေလိမ့်ဦးမည်။

မောင်မောက်ကား ပညာရပ်များကို ဘဝပါရမီရှိသည့်ယောက်ျားထူး, ယောက်ျားမြတ်တဦး ဖြစ်သည့်အတိုင်း ပညာရပ်များကို ပေးတိုင်းရ–ရတိုင်းယူနိုင်သောဂုဏ်မျိုးနှင့်ပြည့်စုံခဲ့လေသည်။

မည်သို့ပင် ပေးနိုင်သူများ ရှိပါစေ, မည်သို့ပင် ယူနိုင်(သင်ကြားတတ်မြောက်နိုင်)သော အသိဉာဏ် ဓာတ်ခံရှိပါစေ၊ အိပ်၍သာနေသောခြင်္သေ့၏ခံတွင်းဝသို့ မည်သည့်သားကောင်ကမျှ အလိုအလျောက် ဝင်လာမည် မဟုတ်သကဲ့သို့ လုံ့လဝီရိယမရှိပါက မည်သည့်ပညာကိုမျှ ရနိုင်မည်မဟုတ်ချေ။ မောင်မောက်ကား 'သု, စိ, ပု, ဘာ, ဝိ, လိ, သိ, ဓာ, အက္ခရာစွဲသုံး၊ ဤရှစ်လုံးကို၊ သီကုံးပန်းသွင်၊ နေ့တိုင်းဆင်လော့၊ စာသင်ပျိုနု၊ အခြေပြုတို့၊ ဥဇုဘူတ၊ လုံ့လပြင်းစွာ၊ သူ့ထက်ငါဟု၊ နှုတ်မှာရွရွ၊ ကြိုးပမ်းကလျှင်၊ သိပ္ပကျေးဇူး၊ အထူးသိမြင်၊ ပညာရှင်ဟု၊ မထင်မပေါ်၊ မကျော်စောပဲ၊ တီမှာလွဲအံ့ "ဟူသကဲ့သို့၎င်း။ "စာသင်ဟူက၊ ကျမ်းထိုမျှကို၊ တွေ့ကမရှောင်၊ ကြောင်ပုဇွန်စား၊ ကြွပ်ကြွပ်ဝါးသို့၊ လွှသွားပမာ၊ ကျောက်ထက်စာသို့၊ လိုရာရအောင်၊ ကြံဆောင်လေ့ကျက်၊ အနက်အဓိပ္ပါယ်၊ နှုတ်ဝယ်ရွရွထားချေမှတည့် "ဟူသကဲ့သို့၎င်း "အခြေပါဒ၊ သင်ဦးစ,က၊ ချနည်းမကျယ်၊ ဓိပ္ပါယ်ကောင်းစွာ၊ လိုရုံသာလျှင်၊ အပ်ရာမသည်း၊ နားထွင်းနည်းသို့၊ ညှံ့ဖြည်းမွှေ့မွှေ့၊ တနေ့တထူး၊ ကျေးဇူးချဲ့ထွင်၊ ကျမ်းရိုးငင်လျက်၊ သင်သင်အံအံ၊ ကြံကြံကြည့်ကြည့်၊ပညာပြည့်သည် "ဟူသကဲ့သို့၎င်း။ တနေ့ထက်တနေ့ တလထက် တလ, တနှစ်ထက်တနှစ် ပညာပြည့်၍လာလေရာ၊ ၁၀–နှစ်သား(၁၁–နှစ်သား)အရွယ်မှာပင် ပညာအရာ၌ အံ့သြလောက်အောင် ထက်မြက်ထူးချွန်သော သူငယ်ကလေးအဖြစ်သို့ ဆိုက်ရောက်ရလေတော့သည်။

ထို့ကြောင့်မဟုတ်လော၊ မောင်မောက် ၁၀–နှစ်သား(၁၁–နှစ်သား)အရွယ်တွင် ဖခင်ဓမ္မပါလအမတ်သည် သားကလေးနှင့်အတူ ရွှေနန်းတော်တွင်းသို့ ဝင်ရာဝယ် ဒုတိယမင်းခေါင်၏သမီးတော်သုံးပါး နားထွင်းမင်္ဂလာသဘင်နှင့်ကြုံကြိုက်နေသည့်အလျောက် ဘုရင်မင်းမြတ်က ဓမ္မပါလအမတ်

အား ထုတိကဗျာ–မင်္ဂလာစကား လျှောက်ကြားစပ်ဆိုရန် စေခိုင်းတော်မူလေရာ ခမည်းတော်ကိုယ်စား ကျွန်တော်မျိုး စပ်ဆိုပါရစေဟု တင်လျှောက်ကာ အောက်ပါကဗျာများကို ရုတ်ချည်းစပ်ဆိုလျှောက်တင်လေ၏။

၁။ အိုဘဲ့–ဘယ်၊ အိုဘဲ့သမီးတော်(ဘဲ့ဘယ်သမီးတော်) နတ်သော်ပုံမယွင်း။

၂။ အိုဘဲ့–ဘယ်၊ အိုဘဲ့သမီးတော်(ဘဲ့ဘယ်သမီးတော်) ရွှေလှော်သွန်းပုံဆင်း။

၃။ အိုဘဲ့–ဘယ်၊ အိုဘဲ့သမီးတော်(ဘဲ့ဘယ်သမီးတော်) စန္ဒော်လနယ်ဝင်း။

[မှတ်ချက်။ ။နားထွင်းမင်္ဂလာ ကျင်းပချိန်တွင် မောင်မောက် ၁၀–နှစ်သား ဖြစ်ပါက ဒုတိယမင်းခေါင် ဘုရင်မဖြစ်သေးချေ။ တနှစ်လိုသေးသည်၊ မောင်မောက် ၁၁–နှစ်သားဆိုလျှင်၊ ဒုတိယမင်းခေါင် ဘုရင်ဖြစ်ပေပြီ]

မောင်မောက်သည် ဒုတိယမင်းခေါင်လက်ထက် ၁၂–နှစ်သားအရွယ်တွင် တံတားဦးတည်မင်္ဂလာစေတီတော်မော်ကွန်းကို ရေးစပ်သည်ဟုဆိုသဖြင့် မည်မျှအံ့သြဘွယ်ကောင်းသော ပညာရှင်ဖြစ်သည်ကို ချင့်ချိန်နိုင်ဖွယ်ဖြစ်ရပေသည်။

မှတ်ချက်။ ။ဒုတိယမင်းခေါင်သည် ဘုရားတည်ရန် အိမ်ရှေ့မင်းအဖြစ်ကပင် အုတ်များ စုခဲ့ပေသည်။ နန်းတက်သည့်နှစ်(၈၄၂)တွင် စ၍တည်လေရာ ၈၆၁–ခုနှစ်မှာမှ (၁၉ နှစ်ကြာမှ)ပြီးစီးလေသည်။ ဓာတ်တော်, မွေတော်ရှာနေရသဖြင့် ကြန့်ကြာရသည်ဟုသမိုင်း၌ မှာသည်။

ဤသို့လျှင် အသက်ဆယ်နှစ်သားကျော်ကျော် အရွယ်ကစ၍ ထင်ရှားကျော်စောသော "ဂုဏ်သတင်း"ရှိခဲ့လေသည်။ ၁၀–နှစ်သားမှ ၁၆–နှစ်သားအတွင်း သူတော်ကောင်းတို့အထံ၌ (သူတော်စင်အဖြစ်၌)ပါဠိဂါထာတို့နှင့်တကွဖြစ်သော မဟာနိပါတ်ဇာတ်ကြီးဆယ်ဖွဲ့တို့ကိုရင်း၊ ဧကနိပါတ်, ဒုကနိပါတ်စသောဇာတ်ငါးရာငါးဆယ်တို့ကိုရင်း၊ ဗေဒင်ကျမ်းများနှင့်အခြား

သသ်ကရိုတ်ကျမ်းဂန်တို့ကိုငင်း၊ အဖွင့်ကျမ်းများ၊ အခြံအရံ, အခက်အလက်ကျမ်းများနှင့်တကွ ကစ္စည်းသဒ္ဒါကျမ်းကိုငင်း, တတ်မြောက်ခဲ့လေ၏။ "ပညာပါရမီ ဖြည့်ကျင့်ပုံ ပြီသထင်ရှားလှပါပေတယ်"ဟု အများကပင် ချီးကျူးရလောက်အောင် စာပေပညာများကို ကြိုးကုတ်သင်ကြားခဲ့လေသည်။

မှတ်လော့မှန်စွာ၊ အကြင်ငါကား၊ မန္တာ, ခိဋ္ဌု၊ စသည်တို့တွင်၊ စီစစ်ကျင်သော်၊ ပေါ်လွင်မြူးရယ်၊ ပျံ့ပျူးဖွယ်သား၊ တဆယ်ကျူးမြောက်၊ သူသိလောက်က၊ ဆဲ့ခြောက်နှစ်အောင်၊ သူတော်ဘောင်၌၊ ဆယ်စောင်ဇာတ်မျိုး၊ ပါဠိရိုးဂါထာ၊ ငါးရာဇက်, ဒုက်၊ ကောင်းဟုတ်ဗေဒင်၊ သသ်ကရိုတ်၊ အလိုက်အဖက်၊ လေ့ကျက်ဖွယ်ဖွယ်၊ သရစ္ဆာယ်မှ၊ နည်းကျယ်သဒ္ဒါ၊ ကစ္စည်းမှာလည်း၊ နှုတ်ပါရွရွ၊ ခါရဏဖြင့်၊ ဗုဒ္ဓဝံသာ၊ စဉ်တိုင်းလာသား၊ ပညာပါရမီ၊ ဖြည့်သည်ပြီဟု၊ တန္တိခိုင်းနွယ်၊ ဆုကြီးရွယ်လျက်၊ သူငယ်ကပင်၊ ပဏ္ဍိအင်နှင့်၊ စာသင်မွေ့လျော်၊ တရားပျော်လျက်...

## ဇာတ်ပေါင်းပျို့

ဒုတိယဘုရင်မင်းခေါင် နန်းစံသုံးနှစ် သကရာဇ် ၈၄၅ ခုတွင် ရှင်ရဋ္ဌသာရထက် ၁၅-နှစ်မျှကြီးသော စာဆိုရှင်သီလဝံသသည် တောင်တွင်းကြီးမှ ရတနာပူရ အဝရွှေမြို့တော်သို့ ဆိုက်ရောက်၍လာလေသည်။ မိမိအသက် ၃၀-အတွင်းတွင် အပြီးစပ်ဆိုခဲ့သော ပါရမီခဏ်းပျို့ကိုလည်း ဆောင်ယူ၍ လာခဲ့လေသည်။ ဒုတိယမင်းခေါင်ကလည်း ထိုအရှင်အား ကောင်းစွာကိုးကွယ်တော်မူလေသည်။ ထိုအခါ ရှင်ရဋ္ဌသာရသည် ၁၅-နှစ်အရွယ်မျှသာ ရှိသေး၏။ ဘူရိဒတ်လင်္ကာကြီးကိုပင် မစပ်ဆိုရသေးချေ။

ထိုအခါ မောင်မောက်(ရှင်ရဋ္ဌသာရ)သည် သူငယ်မျှသာဖြစ်သည့်အပြင် ဇာတိမာန်, ပုညမာန်, ဂုဏမာန်တို့ကြောင့် ခက်ထန်လျက်ရှိသောကိုယ်နှုတ်, စိတ်တို့ကို မထိန်းနိုင်သေးရကား လောကုတ္တရာတရားရေးကို အရေးပေးလိုသူတို့၏မြင်ကွင်း၌ ရှင်ရဋ္ဌသာရအပေါ်တွင် ကြည်ညိုဖွယ် အချက်အ

လက်တို့ကို များစွာ တွေ့ရဟန်မတူချေ။ ထိုမျှမက ငယ်ရွယ်သူတို့ဓမ္မတာ ပြောမှားဆိုမှားရှိသည့်အခါ ရှိရာပေလိမ့်မည်။

ငင်းပြင် ထိုအခါက ကျောင်းသားရွယ် ကိုရင်ရွယ်မျှသာ ဖြစ်သော မောင်မောက်(ရှင်ရဋ္ဌသာရ)နှင့်ကျောင်းထိုင်ဘုန်းကြီးအရွယ်ဖြစ်သော ရှင်သီလ ဝံသတို့ကို လောကီ, လောကုတ္တရာပညာအရာ၌ ဖြစ်စေ၊ ကဗျာအရာ၌ ဖြစ်စေ(ပါရမီဉာဏ် စသည်ကိုအပထား၍)အရွယ်သက်သက်ကို ထောက်ထားခြင်းအားဖြင့် နှိုင်းယှဉ်သင့်သောအချိန်အခါမျိုး မဟုတ်သေးချေ။

စင်စစ်ကား ရှင်သီလဝံသ ၁၆-နှစ်သား အရွယ်ရှိစဉ်က ဘူရိဒတ် လင်္ကာကြီးလောက် ကောင်းမွန်ပြည့်ဝသောကဗျာမျိုးကို စပ်ဆိုနိုင်သောဉာဏ် ရည် ရှိမှရှိပါမည်လား-ဟုတွေးထင်စရာပင် ရှိလေသည်။

မဟာနိပါတ်ဇာတ်ကြီးဆယ်ဘွဲ့အဝင် ဘူရိဒတ်ဇာတ်တော်ကြီးကို ရှေးဆရာတို့သည် ကဗျာဖြင့် ဖွဲ့နွဲ့ရေးသားချက်များ ရှိပြီးဖြစ်၏။ သို့ရာတွင် ရှေးရှိပြီး ဘူရိဒတ်ကဗျာတို့သည် တောင်ပေါ်သားစကားမျိုးများစွာ ပါဝင်သဖြင့် မြို့နေလူတန်းစားများနှင့်နန်းတွင်းသူ နန်းတွင်းသားများအတွက် အရသာမပေါ်နိုင်ဘဲရှိနေကြလေသည်။ ထိုရှေးရှိပြီး ကဗျာတို့၌ ပါရှိသောဇာတ်ကွက်ဇာတ်လက်နှင့်အနက်အဓိပ္ပါယ်များတွင်လည်း ကျမ်းဂန်နှင့်မညီသည့်အချက်များ ပါရှိနေသည့်ပြင် သာယာလေးနက်ခြင်း ကင်းပလေသည်။ ထိုအချက်များကို တွေ့မြင်ရသဖြင့် ၁၆-နှစ်သားအရွယ်မျှသာ ရှိသေးသော မောင်မောက်သည် ရှင်မှု, လူမှု(ဓမ္မဝတ်, လောကဝတ်)နှစ်မျိုးလုံးပါအောင် ဘူရိဒတ်လင်္ကာကြီးကို စပ်ဆိုလေ၏။

သာမဏေအဖြစ်သို့ ဆိုက်ရောက်ပြီးချိန်ကစ၍ မောင်မောက်သည် ရှင်ဝရစက္ကပါလဟူသော ဘွဲ့တော်ဖြင့် ထင်ရှားတော်မူသည့်နောင်တော်အရှင် မြတ်ထံ၌ ပညာရပ်များကို ကောင်းမွန်စွာ သင်ကြားခဲ့လေသည်။ ရှင်ဘွဲ့

"ရဋ္ဌသာရ"မည်၏။ [ဝရစက္ကပါလမှာ–သိန်းဃိုပြန်ပင် ဖြစ်သည်ကို ဇာတ်ပေါင်း, နိဂုံးအရသိရသည်။]

တဖန် ၁၉–နှစ်သားအရွယ်တွင် "စစ်ကိုင်းချောက်၌၊ မပျောက်အာပတ်၊ ပိဋကတ်–တတ်စွာ၊ သုဒ္ဓါစာရ၊ သီလ–ဂုဏပန်၊ ထေရ်မွန်ပုဂ္ဂိုလ်၊ သိန်းဃိုဋ်ရောက်ကြီး၊ သံဃာ့ထီး(မီး)ကို၊ ယှဉ်မီးငြမ်းထောက်၊ ထိပ်ထက်ဆောက်မှ"ဟူသော ကိုးခဏ်းနှင့်အညီ စစ်ကိုင်းချောက်နေ သီလ သမာဓိ ပညာ သိက္ခာသုံးရပ်လုံး ပြည့်ဝသည့်သိန်းဃိုဋ်ရောက်(သံဃရာဇာ)အရှင်မြတ်ထံ၌ ပညာရပ်များကို အဆုံးတိုင် သင်ကြားတတ်မြောက်တော်မူခဲ့လေသည်။

မှတ်ချက်။ ။ဤတွင်"ပုရေနိသင်"(မူကွဲ–ပုဗ္ဗေနိသင်)ချီရတုအရ ရှင်ရဋ္ဌသာတွင် အငယ်က ချစ်သူရှိခဲ့သဖြင့် အနေမကျရှိခဲ့ရာမှ နောက်ဆုံးရဟန်းအဖြစ်နှင့်အရိုးထုတ်ရန် ဆုံးဖြတ်လိုက်ဟန် တူကြောင်းများကိုပါအချို့က တွေးထင်ကြလေသည်။ အကျွန်ုပ်တို့ကလည်း ဟုတ်လောက်စရာရှိသည်ဟု သဘောရမိပေသည်။

ရှင်ရဋ္ဌသာရသည် ၈၅၆ ခု၊ သက်တော် ၂၅ နှစ်(၂၆?)အရွယ်သို့ ရောက်တော်မူသောအခါ ဘူရိဒတ်ဇာတ်ပေါင်းပျို့ကို စပ်ဆိုတော်မူလေသည်။ ထိုပျို့သည်ကား လောကကြောင်း ရာဇကြောင်း ဓမ္မကြောင်း သုံးရပ်လုံးမှာပင် ပါရမီခဏ်းပျို့ထက် မည်သည့်နည်းနှင့်မျှ အောက်မကျသောပျို့ ဖြစ်ကြောင်းကို အသေအချာ လေ့လာနိူင်းယှဉ်လေလေ သိနိုင်လေလေဖြစ်ပေသည်။ ထိုပျို့၌ အလွန်ခက်ခဲနက်နဲသော ပရမတ္ထသဘာဝများကို–ဘွဲ့ဆိုရာဝယ် သာမန်ပုဂ္ဂိုလ်များပင် သိနိုင်လောက်အောင် ဘွဲ့ဆိုပုံတို့ကို တွေ့ရ၏။ (အတ္တဇျတ္တိဂုဏ်မြောက်သော အဘွဲ့များကို တွေ့ရသည်ဟူလို) အချို့သူတို့အဘို့ နားလည်လွယ်လှသဖြင့် "တိမ်"သကဲ့သို့ပင် ထင်စရာရှိတတ်လေသည်။ ထို့ကြောင့် "ထဲနက်ကုတ်ကော်၊ ခဲယဉ်းသော်လည်း၊ နာပျော်ချင်ဘွယ်၊ သဒ္ဒါလွယ်–ဟု၊ နည်းသွယ်မှတ်ပိုက်၊ အလိုလိုက်၍၊ စိုးထိုက်မင်းတန်၊ စကားမွန်ဖြင့်၊ ကျော်တွန်ကရဝိ၊ သံပြိုင်ညှိသို့"ဟူ၍ရင်း။ "ကြည်လင်

သနပ်သက်၊ တိမ်ယောင်နက်သား၊ မိုက်မြက်စင်ကြယ်၊ ရေသဖွယ်တည့်၊ မှတ်လွယ်စေငှါ၊ သိသာစေချင်၊ နားဝင်စေအောင်၊ ထုံးဆောင်ပုံတု၊ ရေးသားထုသို့"ဟူ၍ငင်း။ ကိုယ်တော်တိုင် မှာကြားတော်မူချက်များကိုလည်း တွေ့ရလေသည်။ စင်စစ်ကား တိမ်သောအကြောင်းအရာပင် ဖြစ်စေကာမူ "အတ္ထဗျတ္တိဂုဏ်"မြောက်အောင် စပ်ဆိုရေးသားနိုင်စွမ်းမရှိပါက ဖတ်နာသူအဘို့ အင်မတန် ခက်တတ်လေသည်။ အချို့သူတို့က ဤသို့ခက်မှသာ နက်သည်ဟု ထင်တတ်လေသည်။ ဥပမာ...နံရံတွင် အရှုးတယောက် ရေးထားသော "ကျွတ်, မုန်း, ဝင်"ကဲ့သို့ပေတည်း။ ထို"ကျွတ်, မုန်း, ဝင်"ဟူသော စကား၌ ရေးသူ့အာဘော်ကို သိရန် ခက်ရုံမျှသာရှိ၏။ နက်နဲမှုသဘောကား တစုံတရာမျှ မပါချေ။

ရှင်မဟာရဋ္ဌသာရသည် ဒုတိယမင်းခေါင်ကောင်းမှု တံတားဦး–မင်္ဂလာစေတီတော်မော်ကွန်းကိုလည်း ရေးသားစီရင်ကြောင်းကို နောက်နားက ပြဆိုခဲ့ပေ၏။ ဤတွင် အဆိုအမျိုးမျိုး ကွဲလျက်ရှိလေသည်။

ရှင်ရဋ္ဌသာရသည် "သုံးဆဲ့နှစ်ပါ၊ ထင်ရှားလက္ခဏာ"ချီ–တံတားဦးတည်မင်္ဂလာစေတီတော်မော်ကွန်းကိုလည်း စပ်တော်မူလေသည်။ ရှင်သီလဝံသသည်လည်း "ကြားပိမ့်ကြက်သရေ"ချီ–တံတားဦးတည်–မင်္ဂလာစေတီတော်မော်ကွန်းကို စပ်ဆိုတော်မူလေသည်။ ရှင်သီလဝံသသည် "ကြားပိမ့်ကြက်သရေ"ချီ–တံတားဦးတည်–မော်ကွန်းကို ၁၂–ပိုဒ်မျှ ရေးသားပြီးနောက် ရှင်ရဋ္ဌသာရ၏တံတားဦးတည်–မင်္ဂလာစေတီတော်မော်ကွန်း ရေးသားပြီးစီးကြောင်းကို ကြားသိရ၍ ရေးပြီး ၁၂–ပိုဒ်ကို ချေဖျက်စေရာ တပည့်များက ကူးယူထားလိုက်ရသည်ဟုအချို့က ဆိုကြလေသည်။ သို့ရာတွင် ယခုရှိပြီး ၁၂–ပိုဒ်၌ ထိုစေတီတော်အတွက် အရေးကြီးသော အကြောင်းအရာအားလုံး ပါဝင်လျက်ရှိသည်ကို တွေ့ရပေ၏။

၁။ ဆုံးမစာပေါင်းချုပ်စာမျက်နှာ–၄၃–တွင် ရှင်ရဋ္ဌသာရအဋ္ဌုပ္ပတ်၌ ၈၄၂ ခု နန်းတက်တော်မူသည့်ဒုတိယမင်းခေါင်လက်ထက် အသက် ၁၂–နှစ်

အရွယ်တွင် "သုံးဆဲ့နှစ်ပါး၊ ထင်ရှားလက္ခဏာ"ချီ–တံတားဦးတည်–မင်္ဂလာ စေတီတော်မော်ကွန်းကို ရေးသားသည်ဟု ပြဆိုလေသည်။ (မည်သည့်နေရာ မှ–ရသောအမှတ်အသား ဖြစ်သည်ကိုကား မဖော်ပြချေ။)

၂။ ပုဂံဝန်ထောက်မင်းဦးတင်ကမူ–ရှင်ရဋ္ဌသာရသည် တံတားဦး တည်မော်ကွန်း နှစ်စောင် စပ်ဆိုရေးသားခဲ့ကြောင်း။ ထိုနှစ်စောင်တို့ကား (က)၁၂–နှစ်ရွယ်က ရေးစပ်သည့်"ကြားပိမ့်နတ်ရှင်"ချီမော်ကွန်းနှင့်(ခ)၂၈–နှစ် ရွယ်တွင် စပ်ဆိုတော်မူသော "သုံးဆဲ့နှစ်ပါး"ချီမော်ကွန်းတို့ဖြစ်ကြောင်း ပြဆို လေသည်။

[ကြားပိမ့်နတ်ရှင်–ချီမော်ကွန်း ပဌမပိုဒ်ကို ကဗျာဗန္ဓသာရ၌ ပြဆို ထားသည်။]

၃။ မြန်မာစာပေသမိုင်း၌ကား ၂–စောင်ဟုဆိုခြင်းသည် လက်ခံနိုင် ဘွယ် မဟုတ်ကြောင်း။ "သုံးဆဲ့နှစ်ပါး"ချီတစောင်သာ ဖြစ်သင့်ကြောင်း၊ ထို တစောင်ကို ၅၈၅ ခု(အသက် ၂၈)တွင် ရေးသားဟန်တူကြောင်းများကို ပြ ဆိုလေသည်။

ဤသို့အဆိုအမျိုးမျိုး ရှိနေပေရာ ထိုအဆိုတို့တွင် မြန်မာစာပေ သမိုင်းအဆို၌ ရာဇဝင်နှင့်မညီသော အချက်များကိုငင်း သဘာဝမကျသော ယူဆနည်းများကိုငင်း တွေ့ရသည်။ (တွေ့ရပုံကား)မင်္ဂလာစေတီတော်ကို ၈၄၂ ခုမှစ၍ တည်ရာ ၈၅၈ ခုရောက်မှ ဌာပနာရန် ဓာတ်တော်များရ၍ ပြီး စီးကြောင်း ရာဇဝင်များမှာ ပါသည်ဟုဆိုလေသည်။ စင်စစ်ကား ဤအချက် နှင့်ပတ်သက်၍ မှန်နန်းဆရာကြီးများကိုယ်တိုင် မင်္ဂလာစေတီကျောက်စာသ မိုင်းအရ ၈၄၂ ခုတွင် တည်ကြောင်း၊ ၈၆၁ ခုတွင် လုံးဝပြီးကြောင်း၊ ရှင် ရဋ္ဌသာရ၏မော်ကွန်း၌ ၈၅၈ ခုတွင် (အလယ်)ဌာပနာပြီးသည်ကိုသာ စပ်ဆို ခြင်းဖြစ်ကြောင်း ဆုံးဖြတ်ပြီးဖြစ်ပေသည်။ (ထို့ကြောင့် မြန်မာစာပေသမိုင်း အဆိုသည် ရာဇဝင်ကျောက်စာတို့နှင့်မညီဟု မှတ်သင့်၏) တဖန် မြန်မာစာ

ပေသမိုင်းဆရာက ရှင်ရဋ္ဌသာရ ၁၂-နှစ်အရွယ်တွင် တံတားဦးတည်မော်ကွန်း စပ်ဆိုခဲ့ကြောင်းကို အခြားပျို့, မော်ကွန်း, နိဂုံးများတွင် မပါသဖြင့် မခိုင်လုံဟုဆိုလေသည်။ အခြားပျို့, မော်ကွန်း, နိဂုံးများတွင် မပါက မခိုင်လုံဟုယူဆစတမ်းဆိုပါလျှင် ရှင်ရဋ္ဌသာရ ရေးပါလျက် ရှင်ရဋ္ဌသာရမရေးဟု ယူရမည့်စာပေအများပင် ရှိလာပေလိမ့်မည်။ ရှင်သီလဝံသအတွက်လည်း ထို့အတူပင်။ စင်စစ်ကား မည်သည့်အချက် မည်သည့်သဘောနှင့်မကိုက်သော ကြောင့် မခိုင်လုံ စသည်ဖြင့်သာ ဆိုဘို့သင့်ပေသည်။ လောက၌ စာပေမတင်ဘဲ အဆင့်ဆင့်ပြောကြားမှတ်သားချက်များလည်း အများပင် ရှိသည်မဟုတ်ပါလော။

အကယ်၍ ရှင်ရဋ္ဌသာရသည် ၁၂-နှစ်သားကပင် "ကြားပိမ့်နတ်ရှင်"ချီမော်ကွန်းကို စပ်ဆိုခဲ့ရိုးမှန်ပါက အစပိုဒ်ချင်းယှဉ်ကြည့်ရုံနှင့်ရှင်ရဋ္ဌသာရက ရှင်သီလဝံသထက်(အရွယ်နှင့်မလိုက်အောင်) အဘယ်မျှ ဉာဏ်ရည်သာကြောင်း ထင်ရှားလှပေတော့သည်။ (ဦးလည်းဦးလှသေး၏၊ ကောင်းလည်းကောင်းလှသေး၏-ဟူလို)

ရှင်ရဋ္ဌသာရသည် ဘူရိဒတ်လင်္ကာကြီးနှင့်ဘူရိဒတ်ဇာတ်ပေါင်းတို့ကို စပ်ဆိုတော်မူခဲ့ပြီးနောက် (မည်သည့်ခုနှစ် မည်သည့်အရွယ်တွင်ဟုမသိရသော) အချိန်တွင် "ဘူရိဒတ္တဆိုစပြီးမြောက်၊ နည်းလျှောက်ကြံမိ၊ ဟတ္ထိပါလ၊ ဓမ္မမြတော၊ ဟောကြားပေသော်"...ဟူသော ကိုးခဏ်းနိဂုံးနှင့်အညီ၊ ဒုတိယမင်းခေါင်အား ဟတ္ထိပါလဇာတ်တော်ကို ဟောကြားတော်မူကြောင်း ဇကန်သိရသည်။ (တဖန်)"ဟတ္ထိပါလ၊ ဓမ္မမြတော၊ ဟောကြားပေသော်၊ တဲနေရပ်အောင်၊ သာစည်ဘောင်တွင်၊ မင်းခေါင်ဒုတိယ၊ တို့မွေးဖ-လျှင်၊ နားဝငြိမ့်ငြိမ့်၊ နှစ်သိမ့်ကြည်စွာ၊ တောင်းပန်ထွာသည်။ ။တန်ဆာ ဆင်စိမ့်သောကြောင့်တည်း"ဟူသော ကိုးခဏ်းနိဂုံးအရ ဒုတိယမင်းခေါင်က ရှင်မဟာရဋ္ဌသာရအား ဟတ္ထိပါလဇာတ်ကို ပျို့စီရန်(ကဗျာဖွဲ့ရန်) တောင်းပန်ကြောင်း သိသာသည်။

ထို့ကြောင့် ဤပဟတ္တိပါလပျို့ကို ရေးသားစပ်ဆိုခဲ့ရာ ဒုတိယမင်းခေါင် နတ်ရွာစံချိန်အထိ မပြီးစီးသေးကြောင်း သိရသည်။ (နန်းထက်သို့ဦး... ပေ...ကုသိုလ်ဝေငှ ဆင့်လောင်းတည်း...ဟူသော ကိုးခဏ်းနိဂုံးကိုထောက်လေ)

၈၆၅–ခုတွင် ညောင်ရမ်းစား ဘယကျော်ထင်၏သား ဘယကျော်ထင်အမည်ခံ(ငတုံးတာ)နှင့် ၎င်း၏ညီ ဘယနန်သူ အမည်ခံ(ငပြည့်ဝ)တို့ တောင်ငူကို အမှီပြုကာ ယင်းတော်ရှိရှားကနေ၍ ပုန်ကန်ကြလေ၏။ တောင်ငူမင်းကြီးညိုကလည်း ဘယကျော်ထင်(ငတုံးတာ)ကို သမီးနှင့်ထိမ်းမြားလေ၏ ရွှေနန်းကြော့ရှင်နရပတိက ရာဇသင်္ကြံကို စေလွှတ်တိုက်ခိုက်စေသော်လည်း စစ်ရေးမသာ ဖြစ်ကာ ရာဇသင်္ကြံသာ ကျဆုံးရှာလေသည်။ ၈၆၇–ခုတွင်လည်း ငတုံးတာ–ငပြည့်ဝတို့သည် တောင်ငူမင်း ပြည်မင်းတို့ကို ချီပင့်ကာ စလေမြို့ကို ဝန်းရံလာသဖြင့် ရွှေနန်းကြော့ရှင်လည်း (အုန်းဘောင်စော်ဘွား၏အကူအညီကို ယူကာ)စလေပုံတောင်သို့ ချီတက်တိုက်ခိုက်လေရာတွင် ပြည်မင်းနှင့်တောင်ငူမင်းတို့တပ်များ ပျက်လေ၏။ အုန်းဘောင်စော်ဘွားကလည်း ငတုံးတာ၏တပ်ကို တိုက်ရာတွင် ငတုံးတာကိုပါရလေ၏။ တပ်ခေါက်၍ ပြန်လာကာ ပုဂံ၌ ဘုရားပုထိုးများ ရှိခိုးပူဇော်စဉ် (ယခု–မိတ္ထီလာခေါ်)ရှိရှား(ရှစ်ရှား)မြို့တွင် ငပြည့်ဝ နေလာကြောင်း ကြားသိရ၍ ချီတက်တိုက်ခိုက်ပြန်ရာ တမြို့လုံးကိုပင် ရလေသည်။ သို့ရာတွင် ငပြည့်ဝကို သစ္စာတော်ပေး၍ ရှိရှားကိုပင် စားစေလေသည်။

အပြည်ပြည်၏အခြေအနေအရ ရဲဝံ့စွန့်စားရမည့်အချိန်မျိုးဖြစ်သည့် အတိုင်း ယခုကဲ့သို့ အောင်ပွဲရလိုက်ခြင်းကို ရှင်ရဋ္ဌသာရသည် အလွန်ပင်ဝမ်းသာရအားရရှိတော်မူဟန် တူ၏။ ထို့ကြောင့် "ပွင့်လော့ပြည်လုံး"ချီ "ပုံတောင်နိုင်–မော်ကွန်းလင်္ကာ"ကို စပ်ဆိုတော်မူ၍ ရွှေနန်းကြော့ရှင်အား အားပါးတရဂုဏ်ပြုတော်မူလေ၏။

ရွှေနန်းကြော့ရှင်ဘုရင်နရပတိလက်ထက် ၈၈၅–ခု(သက်တော် ၅၅ နှစ်)တွင် ကိုးခဏ်းပျို့ကို အဆုံးသတ်ရေးစပ်တော်မူပြီးကြောင်း သိရသည်။ ("အစွန်းငါးခု–ပ–နိုးနန့်နှလုံးမပြောင်းတည်း"ဟူသော ကိုးခဏ်းနိဂုံးကို ထောက်လေ)

၈၈၆–ခုတွင် ရွှေနန်းကြော့ရှင်ဘုရင်နရပတိအား မိုးညှင်းစော်ဘွား စလုံနှင့်ပြည်ဘုရင်သတိုးမင်းခေါင်တို့က ပူးပေါင်းတိုက်ခိုက်လေရာ ရွှေနန်းကြော့ရှင်လည်း အရေးတော်မသာသဖြင့် နေပြည်တော်မှ ရှောင်ခွါတော်မူရလေသည်။ ဤကား–အဝရွှေမြို့တော် ပဋမအကြိမ်ပျက်ခြင်းပေတည်း။ ထိုနှစ်တွင်ပင် ပြည်ဘုရင်သည် ရှင်ရဋ္ဌသာရအား အဝမှပြည်သို့ ပင့်ဆောင်ပြန်သွားလေ၏။ ရှင်ရဋ္ဌသာရသည် ပြည်သို့ မလိုက်ပါမီ တပည့်များထံမှ ကိုးခဏ်းစာမူကို တောင်းယူရာ ၈–ခဏ်းသာ ရတော့၏။ ဇာတ်ပေါင်းခဏ်း ပျောက်နေလေတော့သည်။ ပြည်သို့ ရောက်တော်မူ၍ ("ဂ–ငယ်သုံးခု–ဉဿျစ်ထု"ဟူသောဆိုရိုးအရ ဒုတိယအကြိမ် အဝပြည်ကြီး ပျက်စီးတိမ်းယိမ်းသော) ၈၈၈ ခုအဝင်တွင် ဇာတ်ပေါင်းခဏ်းကို ထပ်မံရေးသား၍ ပြီးစီးလေသည်။ သုံးနှစ်တိုင်ပျောက်ဆုံးနေသော ဇာတ်ပေါင်းကိုလည်း စစ်ကိုင်းရှိတပည့်များထံမှ ပြန်၍ ရလေ၏။ (ထိုအကြောင်းများကို "ဗုဒ္ဓဃောသာ...ပေ...ဘုန်းတော် အတုမဲ့တောင်းတည်း"ဟူသော ကိုးခဏ်းနိဂုံးအရ သိရပေသည်)

ပြည်မြို့သို့ရောက်တော်မူရာတွင် သတိုးမင်းစောက ပုထိုးကျောင်း တောင်ခွင်ကျောင်း မင်းတုန်းကျောင်းတို့ကို တင်လှူတော်မူလေသည်။ သာသနာပိုင်(သံဃရာဇာ)အဖြစ်လည်း တင်မြှောက်တော်မူသည်။ ရွှေဆံတော်ဘုရား၏မြောက်ဖက်ရှိ ထီးဖြူရုံကျောင်းကြီးနှင့်တပြက်သာ ကျောင်းတို့ကိုလည်း ထပ်၍ လှူတော်မူသည်။ အိပ်ဖန်စောင့် ထမ်းစင်ထမ်း, ဝတ်ချက်, ထီးစွဲ, ရေခပ်ကျွန်စသော အစုများကို လှူတော်မူသည့်ပြင် ပစ္စည်းလေးပါး အသုံးအဆောင်မှစ၍ လိုလေသေးမရှိ လှူတော်မူလေသည်။ ("ဆင်ဖြူသခင် ...ပ...ငါးကျောင်းထပ်၏"ဟူသော အသုံးကို ထောက်လေ)

ပြည်မြို့သို့ အရောက်တွင် အလွန်နက်နဲခက်ခဲသော အဘိဓမ္မာနှင့် ဆိုင်သည့်အချက်အလက်များကို ရတုကဗျာ ရေးစပ်၍ ဝန်တောင်လည်ဘုန်းတော်ကြီးအား အမေးပြုတော်မူသည်။

သကရာဇ်–၈၈၈–ခုတွင် ဆင်ဖြူရှင်သတိုးမင်းစော နတ်ရွာစံပြီးနောက် သားတော်ဘုရင်ထွေး(၈၈၈–၈၉၄) နန်းတက်တော်မူသောအခါလည်း ခမည်းတော် နည်းတူ ဆက်လက်ကိုးကွယ်လေသည်။ (ပြည်မြို့နှင့်ရွှေတောင်မြို့အကြားရှိ) အခွန်တသောင်းထွက်သော ဥယျာဉ်တော် ၂–ခုအတွင်း၌ တံတိုင်းမီးတား ကာရံကာ အရံကျောင်းများနှင့်တကွ သုံးထပ်ကျောင်းကြီးဆောက်လုပ်လှူဒါန်းတော်မူ၏။

အဝမြို့ပျက်ကာ ရှမ်းတို့ကြီးစိုးချိန်၌လည်း တိုင်းရေးပြည်ရေး အခြေအနေမှာ အနယ်မထိုင်သေးရကား ငြိမ်သက်မင မရှိချေ။

အဝ၌ မိုးညှင်းစလုံ၏သား သိုဟန်ဘွား(၈၈၈–၉၀၃)မင်းမူလျက်ရှိလေသည်။ ပြည်မြို့တွင် ဆင်ဖြူရှင်သတိုးမင်းစော နတ်ရွာစံသဖြင့် သားတော်ဘုရင်ထွေး(၈၈၈–၈၉၄)နန်းစံလျက် ရှိလေသည်။ တောင်ငူတွင် မင်းကြီးညို(၈၄၇–၈၉၃)နန်းတက်လျက်ရှိလေသည်။ ဟံသာဝတီတွင် သုရှင်တကာရွတ်ပို(၈၈၈–၉၀၀)နန်းတက်လျက်ရှိလေသည်။

ရှင်မဟာရဋ္ဌသာရသည် ၈၉၁–ခု သက်တော် ၆၁ တွင် လူပ်ရှားလျက်ရှိသော တိုင်းရေးပြည်ရေးအခြေအနေကို ရှုမြင်တော်မူရသဖြင့် မိမိ၏ တကာတော် ဘုရင်နကလေး ဖြစ်သည့်ဘုရင်ထွေးအား ရာဇကြောင်း(ဝါ–တိုင်းရေးပြည်ရေး)၌ လိမ္မာတော်မူစေရန်အကျိုးငှါငင်း၊ ထိုခေတ်ရှိ သွေးသားမကင်းသည့်ဘုရင်အချင်းချင်း ချစ်ကြည်ရေးရကြစေရန်အကျိုးငှါငင်း သံဝရပျို့ကို စပ်ဆိုတော်မူလေသည်။ ထို့ကြောင့် သံဝရနိဂုံးတွင်...

...ဇမ္ဗူတလွှား၊ မင်းတို့အားလည်း၊ ရည်သွားသိတတ်၊ ကျင့်ရာဝတ်ကို၊ နာဂတ်နှောင်လာ၊ မှတ်စိမ့်ငှာလျှင်၊ ဤစာကမ္ဗည်းတပ်သတည်း။

...တိုင်းကားပြည်ရွာ၊ ချမ်းသာပျော်မှု၊ ပြီးအောင်ပြု၍၊ ဆင်ဖြူ့သခင်၊ စောနတ်ရှင်အား၊ စိပ်ပွားပညာ၊ ပွားစိမ့်ငှါလျှင်၊ ဤစာကျေးဇူးဆပ်သတည်း။

...အပြည်ပြည်၌၊ မကြည်ညီနှောင်၊ မင်းကုန်အောင်ကို၊ မြဲနှောင်မေတ္တာ၊ တည်စိမ့်ငှါလျှင်၊ ဤစာချစ်ကြော စပ်သတည်း။

စသည်ဖြင့် စပ်ဆိုဖေါ်ပြချက်များကို တွေ့ရသတည်း။

ဤသို့လျှင် သဒ္ဒပါရဂူ, ဆန္ဒပါရဂူ, အလင်္ကာပါရဂူ, ပိဋကတ္တယပါရဂူ, ဗေဒင်္ဂပါရဂူ, ဣတိဟာသပါရဂူ, သတ်ပုံမှစ၍ မြန်မာမှုပါရဂူ(အထူးသဖြင့်) ကဗျာ့ပါရဂူ, သက္ကဋမဝိဒူ–ဖြစ်တော်မူသော အရှင်မဟာရဋ္ဌသာရသည် "စမ္မာဆိဒြါ၊ ဗသျှူးချ၊ ပြောင်းကြွသက်ခန္ဓာ"ဟူသော ဆောင်ပုဒ်နှင့်အညီ သကရာဇ် ၈၉၂–ခု၊ သက်တော် ၆၊ ဝါတော် ၄၂–တွင် ပျံလွန်တော်မူလေသတည်း။

ဘုရင်ထွေးက မိမိဆရာ၏အရိုးတော်ကို သီတင်းသုံးတော်မူရာလေးထပ်ကျောင်းတိုက်အရှေ့၌ တံတိုင်းမီးတားနှင့်တကွ အရိုးအိုးစေတီတည်ထားခဲ့လေသတည်း။

## ရှင်ရဋ္ဌသာရ ပြုစုခဲ့သော

# ကဗျာစာပေများစာရင်း

(၁)ဘူရိဒတ်လင်္ကာကြီး

(၂)ဘူရိဒတ်ဇာတ်ပေါင်းပျို့

(၃)စတုဓမ္မသာရပျို့

(၄)သံဝရပျို့

(၅)ဂမ္ဘီသာရပျို့

(၆)တံတားဦးတည် မင်္ဂလာစေတီမော်ကွန်း(ကြားပိမ့်နတ်ရှင်–ချီ)

(၇)ငင်း–မော်ကွန်း(၃၂ ပါးချီ)

(၈)ပုံတောင်နိုင်မော်ကွန်း

(၉)ဝတ်ရုံကျောင်းဘွဲ့မော်ကွန်း

(၁၀)မင်္ဂလာအောင်ပွဲတော် ရဲရည်တက်မော်ကွန်း

(၁၁)ရတနာပူရမြို့တည်မော်ကွန်း

(၁၂)မိတ္ထိလာကန်တော်ဘွဲ့မော်ကွန်း

(၁၃)ရွှေစက်တော်သွားတောလားလင်္ကာ

(၁၄)ပါဒနက်သန်လင်္ကာ

(၁၅)ဆုံးမစာလင်္ကာတိုများ

(၁၆)မေတ္တာစာများ

(၁၇)ရတုများ[မြယ်ဘွဲ့ရတု, ရာဇဝသတီခဏ်းရတု, ဘုရားတိုင်ရတု, ကိုယ်ရည်သွေးရတု, ဝန်တောင်လည်သို့ အမေးရတု, သံဝေဂရတုမှစ၍ အများပင်ရှိသည်။]

# ကိုးခဏ်းပျို့စံချိန်

လောကဌ် အကျိုးဟူသမျှကို ဖြစ်စေသည့်အကြောင်းဟူသမျှသည် (၁)အကြောင်းဖျားနှင့်(၂)အကြောင်းရင်း ဟူ၍ အနည်းဆုံး နှစ်မျိုးမျှရှိတတ်ကြလေသည်။ (၁)အကြောင်းဖျားဟူသည် သာမညအကြောင်းမျိုး အပေါ်ယံအကြောင်းမျိုးပေတည်း။ (၂)အကြောင်းရင်းဟူသည်ကား အရေးကြီးသော အကြောင်းမျိုး, အခြေခံဖြစ်သော အကြောင်းမျိုးပေတည်း။

မြန်မာကဗျာစာပေလောက၏အကောင်းဆုံးစံချိန်အဖြစ်ဖြင့်၎င်း၊ ရှင်ရဋ္ဌသာရ၏ကဗျာစာပေဟူသမျှတို့တွင် အကောင်းဆုံးစံချိန်အဖြစ်ဖြင့်၎င်း မှတ်ယူထိုက်လှပေသော ကိုးခဏ်းပျို့ကို စပ်ဆိုရခြင်း၏အကြောင်းတို့သည်လည်း (၁)အကြောင်းဖျားနှင့်(၂)အကြောင်းရင်းဟူ၍ ၂ မျိုးပင်ရှိကုန်၏။

ရှင်မဟာရဋ္ဌသာရသည် ကိုးခဏ်းပျို့(ခေါ်–ဟတ္ထိပါလပျို့)ကို စပ်ဆိုတော်မမူမီ ဟတ္ထိပါလဇာတ်တော်ကို ဟောကြားတော်မူကြောင်း၊ ထိုအခါ ဒုတိယဘုရင်မင်းခေါင်က ထိုဇာတ်တော်ကို ကဗျာဖြင့် ဖွဲ့ဆိုပါရန် တောင်းပန်တော်မူကြောင်း စသည်တို့ကို ကိုးခဏ်းပျို့နိဂုံး၌ ရှင်ရဋ္ဌသာရကိုယ်တိုင် ဖေါ်ပြထားလေသည်။

(ဤသည်တို့ကား အကြောင်းဖျားတို့သာဖြစ်ကုန်၏။ သာမညအကြောင်းတို့သာ ဖြစ်ကုန်၏။ သိသာထင်ရှားသော အကြောင်းတို့သာ ဖြစ်ကုန်၏။)

ကိုးခဏ်းပျို့ကို စပ်ဆိုရခြင်း၏အကြောင်းရင်းကို ရှင်ရဋ္ဌသာရကိုယ်တိုင် ဖေါ်ပြတော် မမူခဲ့လေသောကြောင့် အလွန်ပင် တိမ်မြုပ်လျက်ရှိလေသည်။ ထိုအကြောင်းရင်းကို ကာယကံရှင်ကသာမဟုတ် အခြားမည်သူကမျှလည်း ဖေါ်ပြတော်မမူခဲ့ကြချေ။ ထို့ကြောင့် အလွန်ပင် တိမ်မြုပ်လျက်ရှိလေတော့သည်။ မထင်ရှားဘဲ ရှိလေတော့သည်။

ရှင်ရဋ္ဌသာရ၏ဘဝဖြစ်စဉ်ကို၎င်း၊ ရှင်ရဋ္ဌသာရ၏စာပေများကို၎င်း၊ ရှင်ရဋ္ဌသာရခေတ်၏အခြေအနေနှင့်ထိုခေတ်ပေါ် အခြားစာပေများကို၎င်း လေ့လာကာ အထပ်ထပ်တွေးတော ဆင်ခြင်ပါမူ ထိုအကြောင်းရင်းကို ကောင်းစွာသိမြင်နိုင်ပေလိမ့်မည်။ ကျွန်ုပ်တို့ သိမြင်မိသမျှကား ဆိုလတ့ံသောစကားများအတိုင်းပေတည်း။

| | |
|---|---|
| ၁။ ရှေးအခါက ဗာရာဏသီပြည်၌ ဧသုကာရီမည်သော မင်းကြီး မင်းပြုတော်မူ၏။ | ၁။ အဝမြို့တော်၌ ဒုတိယမင်းခေါင် (၈၄၂–၈၆၃)ဟု ထင်ရှားသောမင်း– မင်းပြု၏။ |
| ၂။ ထိုမင်းကြီး၌ ငယ်စဉ်ကပင် ချစ်ကျွမ်းဝင်ခဲ့သော ပုရောဟိတ် ပုန်ဏားကြီးတဦး ရှိ၏။ | ၂။ ဒုတိယမင်းခေါင်နှင့်ဓမ္မပါလ အမတ်တို့သည် ငယ်စဉ်ကပင်ချစ်ကျွမ်းဝင်ခဲ့ဟန်တူ၏။ |
| ၃။ မင်းကြီး၌၎င်း၊ ပုန်ဏားကြီး၌၎င်း၊ ထီးမွေနန်းဆက်သား သမီးဟူ၍ တယောက်တလေမျှ မထွန်းကားခဲ့ပေ။ | ၃။ ဒုတိယမင်းခေါင်ဖြစ်လတ့ံသော နော်ရထာ၌ (ဘိုးတော် ပြည်စုန်မင်း လက်ထက်)၈၃၇–ခုအထိ သားတော် တယောက်မျှ မထွန်းကားသေးချေ။ ဓမ္မပါလ၌လည်း ပြည်စုန်မင်း နန်းတက်သည့်နှစ် ၈၃၀ ပြည့်အထိသား |

ဟူ၍ မထွန်းကားသေးချေ။

၄။ မင်းကြီးက သင့်သားရသော် ငါ့သားပြုပါအံ့–ငါ့သားရသော် သင့်သားပြုအံ့(မည်သူက သားရ–ရ ကိုယ့်သားကဲ့သို့ မှတ်အံ့–ဟူလို)

၄။ နော်ရထာက ဓမ္မပါလအား–သင့်သားရလျှင် ငါ့သားကဲ့သို့ မွေးအံ့ဟု ကတိပြုခဲ့ဘူးဟန်တူသည်။ (နောက်မောင်မောက်အား မွေးစားသည်ကို ထောက်လေ။

၅။ ထို့နောက် ပုန်ဏားကြီး၌ ဟတ္ထိပါလစသော သားလေးယောက်ရလေသည်။

၅။ နော်ရထာသည် ၈၃၇–ခု၌ သားတဦးရလေ၏။ နော်ရထာ၏ခမည်းတော်ပြည်စုန်မင်းနန်းတက်သည့်၈၃၀ တွင် ဓမ္မပါလအမတ်သည်လည်း(ရှင်ရဋ္ဌသာရဖြစ်လတ့ံသော)သားကိုရလေ၏။



၆။ မင်းကြီးမရှိလျှင် ထီးနန်းဆက်ခံစေမည့်သဘောနှင့်(ထီးနန်းမဆက်ခံမီ ရသေ့ ရဟန်း ပြုမသွားရလေအောင်)ဆင်ထိန်းမြင်းထိန်းတို့ထံအပ်နံ့ထားလေသည်။

၆။ ရှင်ရဋ္ဌသာရဖြစ်လတ့ံသောမောင်မောက် ၈ နှစ်သားတွင် မိဘတို့က ဒုတိယမင်းခေါင်ဖြစ်မည့်အိမ်ရှေ့မင်းထံမွေးစားရန် အပ်နံ့ကြလေ၏။ ထို့ကြောင့်“မင်းခေါင်ဒုတိယ၊ တို့မွေးဖ

လျှင်”ဟုကိုးခဏ်းနိဂုံး၌ စပ်သည်။
ထီးနန်းဆက်ခံစေရန်မရည်ရွယ်သော်
လည်း ရဟန်းမဖြစ်ပါက ကြီးမား
သောမြို့စားရွာစား ရာထူးတခုခုချီး
မြှင့်မည်ဟုရည်ရွယ်ဟန် ရှိသည်။
၎င်းပြင် ရှင်ရဟန်းမပြုပါနှင့်ဟုမင်း
ခေါင်က မတားသော်လည်း မိခင်
ရင်း, ဘခင်ရင်းတို့က တားကြသေး
သည်ဟု ထင်ရ၏။ အခြား သား
ယောက်ျား ရှိဟန်မတူ။

၇။ ဟတ္ထိပါလစသော ညီနောင်တို့သည် မင်းမပြုကြဘဲ ရသေ့ပြုကြလေ၏။

၇။ မောင်မောက်သည် ရနိုင်ခွင့် ရှိသော လောကီရာထူးစည်းစိမ်တို့ကို စွန့်လွှတ်၍ ရဟန်းပြုတော်မူလေရာ ထင်ရှားသော စာဆိုတော်ကြီးအဖြစ်သို့ ဆိုက်ရောက်တော်မူလေ၏။

ဤသို့လျှင်ရှင်ရဋ္ဌသာရသည် မိမိ၏ဘဝဖြစ်စဉ်နှင့်၎င်းမိမိ၏(ပဌမ) ခမည်းတော်, မယ်တော် (ဒုတိယ)ခမည်းတော်, မယ်တော်တို့၏ဘဝဖြစ်စဉ်

နှင့်၄င်း၊ အများဆုံး စပ်ဟပ်၍ရသောကြောင့်(ဝါ-များစွာတူညီသောကြောင့်) ဝိသတိနိပါတ်ဟတ္ထိပါလဇာတ်ကို ဒုတိယမင်းခေါင်အား ဟောကြားတော်မူ ဟန် ရှိပေ၏။

ဟတ္ထိပါလဇာတ်တော်ကို ဟောကြားရသည်မှာ မိမိဘဝဖြစ်စဉ်ကို ဟောကြားရသကဲ့သို့ အားရနှစ်ခြိုက်တော်မူဟန်ရှိလေသည်။ ကဗျာဖြင့် ဖွဲ့ဆို ရာ၌လည်း ထို့အတူပင် မိမိ၏ဘဝအခြေအနေကို ထိထိရောက်ရောက် အရ သာခံစားရင်း ဖွဲ့ဆိုတော်မူဟန်ရှိလေသည်။ ထို့ကြောင့် ကိုယ်တော်တိုင် အရ သာရှိလှသကဲ့သို့ ဖတ်နာသူတို့ကိုလည်း အရသာရှိစေလေတော့သည်။

ထို့ကြောင့် ကိုးခဏ်း၏ဗာရာဏသီမြို့ဘွဲ့များကို အဝမြို့ဘွဲ့များကဲ့ သို့လည်း ကျွန်ုပ်တို့က မှတ်ထင်ဖွယ်ရှိလေသည်။

ဧသုကာရီမင်းကြီး၏ဘုန်းတော်ဘွဲ့များကို ဒုတိယမင်းခေါင်၏ဘုန်း တော်ဘွဲ့များကဲ့သို့လည်း မှတ်ထင်ဖွယ်ရှိလေသည်။

ဗာရာဏသီ-ပုရောဟိတ်ဘွဲ့ကဗျာများကို မိမိ၏ခမည်းတော်ဓမ္မပါလ ကို ဖွဲ့ဆိုသကဲ့သို့လည်း မှတ်ထင်ဖွယ် ရှိလေသည်။

ဗာရာဏသီ - ပုရောဟိတ်(ပုန္နားကြီး)ကြီး၏ဇနီး(ပုန္နေးမကြီး)ဘွဲ့ ကဗျာများကို မိမိ၏မယ်တော်ဖြစ်သော (အမတ်ကတော်)ဘွဲ့ကဗျာများကဲ့သို့ လည်း မှတ်ထင်ဖွယ်ရှိလေသည်။

အလောင်းတော် ဟတ္ထိပါလဘွဲ့ကဗျာများကိုမူ မိမိကိုယ်နှင့်နှိုင်းခိုင်း ဖွဲ့ဆိုသကဲ့သို့လည်း မှတ်ထင်ဖွယ် ရှိလေသည်။

ထို့ကြောင့်ပင် ဤပျို့၏လောကကြောင်း ရာဇကြောင်း ဓမ္မကြောင်း တို့၌ ဖွဲ့နွဲ့ချက်ဟူသမျှတို့သည် အလွန်တရာထိမိပိုင်နိုင်လှပါပေ၏။ တနည်း

အားဖြင့် ဤပျို့သည် အဝခေတ်၏သရုပ်ကို အခြင်းအရာနှင့်တကွ ဖေါ်ထုတ်၍ ပြသရာရောက်သော ပျို့ဖြစ်ပေ၏။

(ဥပမာ)အဆွေသည် အဝခေတ်က အိမ်ရှင်မကြီးတဦး၏အရည်အချင်းများနှင့်ဝတ္တရားများကို သိလိုငြားအံ့၊ ကိုးခဏ်းပျို့ ဗာရာဏသီပုဏ္ဏားမကြီးဘွဲ့ကဗျာများကို ဖတ်ရှုလျှင် သိနိုင်ပါလိမ့်မည်။ ထို့အတူ ထိုခေတ်၏ ဇနီးမောင်နှံဆက်ဆံရေး၊ သားသမိ, သားအဖဆက်ဆံရေး၊ ဆရာတပည့်ဆက်ဆံရေး၊ မင်းနှင့်အမှုထမ်းများ၏ဆက်ဆံရေး၊ (သာသနာရေးတွင်)ဆရာဒကာဆက်ဆံရေး..စသည်တို့ကို စိတ်နေသဘောထားများ အခြေအနေများနှင့်တကွ အတော်ပင် သိမြင်နိုင်ပေလိမ့်မည်။

၎င်းပြင် အဆိုပါ အဝခေတ်၏ဆက်ဆံရေးနှင့်အခြေအနေ စိတ်နေစိတ်ထားများကို ဇာတ်တော်လာပုံများနှင့်ရိပ်ကာ, ဝှဲကာ ပြဆိုရာ၌ (ဆုံးမစာရိုးရိုးကြီးမဟုတ်ဘဲ) စံပြအနေအားဖြင့် ညွှန်ပြရာရောက်သည့်အချက်အလက်အများပင် ပါရှိလေသည်။ (ဥပမာ)စံပြုထိုက်သောမင်း၊ စံပြုထိုက်သောပုန္နားဏား၊ စံပြုထိုက်သောရသေ့၊ စံပြုထိုက်သောဆရာ၊ စံပြုထိုက်သောတပည့်၊ စံပြုထိုက်သောအိမ်ရှင် အစရှိသည်တို့ကို ဖေါ်ပြရာရောက်သည့်အချက်ပေါင်းများစွာပါလေသည်။

ဤသို့ လောကရေး ရာဇရေးတို့၌သာမက ဝေါဟာရရေး၌လည်း နောက်ပေါ်မြန်မာမှုကျမ်းဂန်တို့က ထပ်တလဲလဲ ကိုးကားရပုံများကို တွေ့ရလေသည်။ ဝေါဟာရတ္ထပကာသနီဆရာကြီး၏စာ၌ ရှင်သီလဝံသ၏ဝေါဟာရများနှင့်သတ်ပုံများကို ရှင်ရဋ္ဌသာရလောက် နှစ်သက်ဟန်မရှိသည့်သဘောများ တွေ့ရ၏။

သတ်ပုံအရာဆိုလျှင်ကား ဆရာတော်ကိုယ်တိုင် မြန်မာဘာသာ၏ သတ်ပုံဘုရင်တဆူကဲ့သို့ ဖြစ်တော်မူရကား အလွန်ပင် မှန်ကန်သည်ကိုတွေ့ရ၏။ ထို့ကြောင့် ကဝိလက္ခဏာသတ်ပုံကျော်ဆရာကလည်း "ကဗ္ဗေစာဘိသု

ရောရဋ္ဌ၊ သာရောယောတ္တိမဟာဓီရော၊ တဿနယံ အဝါလမ္ဗ၊ ဘာသိဿံ ကဝိလက္ခဏံ”ဟု ကျမ်းဦး၌ (ရှင်ရဋ္ဌသာရနည်းကိုမှီ၍ပြမည်)ဟု ဝန်ခံထားလေသည်။ ဆရာကြီးဦးပညာ၏သားရွှေဥ၌ သတ်ပုံအတွက် ပြသောပျို့တို့တွင် ရှင်သီလဝံသစာများ မပါချေ။

ရှင်ရဋ္ဌသာရသည် ကိုးခဏ်း၌ အလွန်လေးနက်သော(စုတိ, ပဋိသန္ဓေသဘော၊ စသော)တရားသဘောတို့ကိုငင်း။ သံဝေဂရဘွယ်တို့ကိုငင်း အလွန်လေးနက်စွာ စပ်ဆိုထားသည်ကို တွေ့ရပေသည်။ ရှင်ရဋ္ဌသာရအဖို့ အစမှအဆုံးထိ ကျမ်းဂန်လာ သံဝေဂသဘောများကို ထည့်သွင်း၍ သံဝေဂရဘွယ်ပျို့မျိုး သက်သက်ကို စပ်ဆိုရန် မည်သည့်နည်းနှင့်မျှ ဝန်လေးစရာအကြောင်းမရှိချေ။ သို့သော် ရှင်ရဋ္ဌသာရ၏ကိုးခဏ်းပျို့ စံချိန်ကို မှီအောင် အခြားပုဂ္ဂိုလ်တဦးဦးက တုပစပ်ဆိုရန်ကား လွယ်ကူမည် မဟုတ်ချေ။

ထို့ပြင် နေရာများစွာတို့၌ ကျမ်းဂန်များကိုသာမက ကိုယ်ပိုင်ဉာဏ်ဖြင့် တည်ထွင်ဖေါ်ပြသည့်(ဥပမာအတွေးအထင်)စသည်တို့ကို အများပင်တွေ့ရ၏။ ရှင်ရဋ္ဌသာရသည် ကိုယ်ပိုင်ဉာဏ် မည်မျှကြီးမားရင့်သန်ကြောင်းဝယ်ဂမ္ဘီသာရပျို့သည် ထင်ရှားသော သက်သေဖြစ်၏။

အချို့သူတို့သည် စာမရှိသားကောင်နှင့်သီလချစ်ခင်ရန် နှိုင်းဖွဲ့ထားသည့်ရှင်သီလဝံသစာမျိုးကို ကြည့်ကာ အလွန်ချီးကျူးကြ၏။ စင်စစ်ကား ဗုဒ္ဓဝင်ပါဠိအဋ္ဌကထာတို့၌ လာသည့်ဥပမာကို မြန်မာကဗျာဖြင့် ဘာသာပြန်ခြင်းမျှသာ ဖြစ်၏။

အချုပ်အားဖြင့် အဝခေတ်နောက်ပိုင်း၌ ပေါ်သမျှ ပျို့လင်္ကာတို့တွင် (၅ ပုံ ၄ ပုံထက်မနည်း)ပျို့လင်္ကာတို့သည် ရှင်ရဋ္ဌသာရ၏ကိုးခဏ်းကို (အပိုင်းအခဏ်းဖွဲ့ပုံမှစ၍) နည်းယူထားကြလေသည်။ မန်လည်ဆရာတော်၏မဃဒေဝသည် နီးကပ်ထင်ရှားသောသက်သေတရပ် ဖြစ်ပေသတည်း။

ဤပျို့သည် ဟတ္ထိပါလဇာတ်တော်ကို မြန်မာဘာသာ"ပျို့"မည်သော ကဗျာဖြင့် ပြန်ဆိုရေးသားရာ ဖြစ်သောကြောင့် "ဟတ္ထိပါလပျို့"ဟုလည်း မည်၏။

ဟတ္ထိပါလ, အဿပါလ, ဂေါပါလ, အဇပါလ ဟူသော ညီနောင်လေးပါးတို့၏ဟောပြောချက်(တရားအနှစ်သာရ)များကို အရသာပေါ်အောင် စီကုံးဖေါ်ပြသည့်ပျို့ဖြစ်သောကြောင့် "စတုဓမ္မသာရပျို့"လည်း မည်ပေ၏။

(၁)ဟတ္ထိပါလတောထွက်ခဏ်း၊ (၂)အဿပါလတောထွက်ခဏ်း၊ (၃)ဂေါပါလတောထွက်ခဏ်း၊ (၄)အဇပါလတောထွက်ခဏ်း၊ (၅)ပုရောဟိတ်ပုန္နဏားကြီးတောထွက်ခဏ်း၊ (၆)ပုန်ဏေးမကြီးတောထွက်ခဏ်း၊ (၇)ဧသုကာရီမင်းကြီးတောထွက်ခဏ်း၊ (၈)မိဖုရားကြီးနှင့်ခုနစ်ပြည်ထောင်သားတို့တောထွက်ခဏ်း၊ (၉)ဇာတ်ပေါင်းခဏ်းဟူ၍ အခဏ်းကြီးကိုးခဏ်း ပါရှိသောကြောင့် ကိုးခဏ်းပျို့လည်း မည်၏။

မာဃ

# အဝခေတ်-ကဗျာစစ်ပွဲကြီး

(အထက်ပါ ခေါင်းစဉ်အတိုင်း သူရိယသတင်းစာ၊ ၂၈ နှစ်မြောက် ၁၉၃၉ ခု၊ ဇူလိုင်လ ၄ ရက်နေ့ထုတ် သူရိယနှစ်လည်အထူးစာစောင်၌ ကျွန်ုပ်တို့ ရေးသားခဲ့သည့်ဆောင်းပါးကို သင့်လျော်အောင် ပြင်ဆင်ဖြည့်စွက် နုတ်ပယ်မှုများကို ပြုကာ ထပ်မံဖော်ပြလိုက်ပါသည်။)

ဤအခဏ်း၌ အဋ္ဌုပ္ပတ္တိများကို ရှည်လျားစွာ ရေးသားဖော်ပြရန် မရည်ရွယ်ပါ။ အဋ္ဌုပ္ပတ္တိ အကျယ်သက်သက်ကိုမူ ရှင်သီလဝံသအတွက်၊ ရှင်ဥတ္တမကျော်နှင့်ခုံတော်မောင်ကျာဘမ်းစာအုပ်၌၎င်း၊ ရှင်မဟာရဋ္ဌသာရအတွက် မိုင်းခိုင်းမြို့စား နန်းမတော်ဝန်မင်း ဦးရန်စီရင်သော ရှင်မဟာရဋ္ဌသာရထေရုပ္ပတ္တိကထာ၌၎င်း ကြည့်ရှုနိုင်ပါသည်။

အဖြစ်အပျက်အမှန်ကို သိစေရန် အပြိုင်အဆိုင် ရေးသားသော ကဗျာစာပေများ၏အာဘော်ကို မိအောင် ဖမ်းပြရန် ထိုနှစ်ပါးသောစာဆိုကြီးတို့၏စွမ်းရည်များ, အမှန်အတိုင်း ပေါ်ရန် ဟူသော အဓိကရည်ရွယ်ချက်များဖြင့် ဤဆောင်းပါးကို ရေးသားပါမည်။

## ကျမ်းတတ်မသွင်း

ကဗျာဝိဒူ၊ ပါရဂူပုဂ္ဂိုလ်၊ စာဆိုပညာရှိကြီး နှစ်ပါးတို့အား မြန်မာပြည်၏သာသနာဝင် ဆရာစဉ်စာတတ်စာရင်း၌ ထည့်သွင်းခြင်း မပြုမလုပ်ဘဲ ပယ်ထုတ်ခြင်းခံရသည်မှာ ဝမ်းနည်းစရာ အချက်ကြီးတရပ်ပေတည်း။ ထိုအကြောင်းကို သာသနာလင်္ကာရစာတမ်း၊ သာသနဝံသပ္ပဒီပိကာ စသည်တို့၌ ဖော်ပြလျက်ရှိကုန်၏။ စင်စစ်အားဖြင့် ကျမ်းဂန်မကျနခြင်း၊ ကျမ်းဂန်မသင်ဘူးခြင်း၊ မနဲ့စပ်ခြင်းတို့ကြောင့် သွတ်သွင်းခြင်း ပြုဟန်မတူ။ "ကဗျာဆရာ"ဟူသော အတန်းအစားကိုပင် စာတတ်စာရင်း အသွင်းခံရသောပုဂ္ဂိုလ်ကြီးများ၏အတန်းအစားသို့ မဝင်ထိုက်ဟုသဘောထားကြဟန်တူသည်။ ၎င်း

ပြင် နစ္စ, ဂီတ, သိက္ခာပုဒ်အစွန်းနှင့် မလွတ်သောကြောင့် ဘုရား မကြိုက်သော အပြုအမူဟုလည်း ရေးကပင် ယူဆခဲ့ဟန်တူသည်။ ရွှေနန်းကြော့ရှင်ဘုရင်နရပတိကိုယ်တော်တိုင် အလွန်အရေးကြီးသော သိမ်သမုတ်ပွဲရဟန်းခံပွဲစသောသာသနာရေး သာသနာမှုတို့၌ ထိုပုဂ္ဂိုလ်ကျော်နှစ်ပါးကို ပင့်ဆောင်မှုမပြုကြောင်း ယခုတိုင် အစဉ်အဆက် ပြောဆိုမှတ်သားကြကုန်၏။ ဤအချက်နှင့်ပတ်သက်၍ ယခုအင်္ဂလိပ်အစိုးရမင်းတို့လက်ထက်၌ အထူးကျော်စောထင်ရှားသော မန်လည်ဆရာတော်နှင့်မင်းကွန်းဆရာတော်တို့အမေးအဖြေ အပြန်အလှန်ပြုကြသော ပဥ္စတ္တာလီသပုစ္ဆာဝိသဇ္ဇနာကျမ်း၊ သတပဒိကပုစ္ဆာဝိသဇ္ဇနာကျမ်းတို့နိဂုံးများတွင် ရှင်သီလဝံသ ရှင်မဟာရဋ္ဌတို့ကဲ့သို့ပင် မန်လည်နှင့်မင်းကွန်းဆရာတော်တို့ကိုလည်း ကျမ်းတတ်အသွင်း ခံရမည်မဟုတ်ကြောင်းနှင့်လေးဆစ်ချိုးတပုဒ် တွေ့ရသည်။

အဝခါ–တောင်တွင်းက၊ ခေါင်ချဉ်းတဲ့ပညဝ၊ ။သီလဝင် ရှင်သာရ၊ ရဋ္ဌကြေငြာ။ ။စံပ, မည်–မြန်ပြည်လွှမ်းပေမဲ့၊ "ရွှေကျမ်းတတ်"တို့ကလျာလည်း၊ ရှိန်တေဇာပွင့်လင်း။ ။"သို့ကတဲ၊ အဏ်, အဲး သီကဗျာမို့"၊ သီလဝ, ရှင်သာရဋ္ဌတို့လို၊ သာသနာလောကဓာတ်မှာဖြင့်၊ ပညာဝ, သဟာမြတ်တို့ကို၊ ကျမ်းတတ်မသွင်း။ ။

ထိုအချက်နှင့်ပတ်သက်၍ ရှင်ရဋ္ဌသာရ၏ဇာတ်ပေါင်းတွင်လည်း "သာကြည်ရွှင်လန်း၊ လင်္ကာဩန်းသော်၊ ရဟန်းသူတော်၊ ခပ်မလျော်"စသည်ဖြင့် တွေ့ရ၏။

## အဝခေတ်စာပေအခြေ

"ရေးကလူမျိုး၊ ဆိုလမ်းရိုး၊ စာခိုးမမည်ရာ"ဟူ၍ ဇာတ်ပေါင်းနိဂုံးတွင် တွေ့ရသည်များကို ထောက်သော် ရှင်မဟာရဋ္ဌသာရကဲ့သို့သော ပုဂ္ဂိုလ်ကျော် ပုဂ္ဂိုလ်ထူးကြီးတပါးကိုပင် (အခြားသူတို့က)ခိုးချသည်၊ ရေးက ရေးသောစာကို နည်းယူ၍ အဘယ်ပုံရေးသည် စသည်ဖြင့် စွပ်စွဲပြောဆိုနိုင်သော

အခြေရောက်သည်ကို ထောက်သော် အလွန်ကောင်းမွန်သောစာများသည် အ၀ခေတ် မရောက်မီ တိမ်မြုပ်သွားပုံရသည်။ ပုဂံကောင်းစားစဉ် အက္ခရပ္ပဘေဒသတ်ပုံကို လိုက်နာရကြောင်း အမိန့်တော်ပြန်တမ်းများတွင် ဘတ်ရှုရသည်ကို ထောက်သော် ပုဂံခေတ်ကို ကျောက်စာခေတ် ပါဠိခေတ် ပါဠိသဒ္ဒါမိုးရွာသောခေတ် ဟူ၍သာမက မြန်မာစာပေကို သတ်ပုံသတ်ညွှန်းနှင့်တကွ ကျကျနန လိုက်စားသေးကြောင်း ထင်ရှားသည်။ ပုဂံခေတ်ဆီမှနောက်ကိုမူ ဆိုဘွယ်မရှိ။ သို့သော် အချင်းချင်းဖြစ်စေ အထက်အောက်ဖြစ်စေ ရှမ်းတရုတ်စသော ဘာသာခြား လူမျိုးခြား နိုင်ငံခြားတို့နှင့်ဖြစ်စေ စစ်တိုက်ဖန်များသောကြောင့် စာပေများစွာတို့ ပျောက်ဆုံးခြင်း အညွန့်ကြိုးခြင်းများဖြစ်သွားရဟန်တူသည်။ ဤမှတဖန်ဆိုပြန်သော် ရှေ့နောက်ခေတ် အဆက်ဆက်တို့ထက် အ၀ခေတ်သည် မြန်မာစာပေ အထွန်းကားဆုံးဖြစ်ကြောင်းကိုကား လူတိုင်း ၀န်ခံကြရပေမည်။ စာပေပညာအထက်တန်းကျကျ ထွန်းကားသည် ဆိုရာ၌ သဘာ၀ကျအောင် မြော်မြင်တတ်ဘို့လိုသည်။ (ဥပမာ)လင်္ကာပေါ်သောခေတ်, စကားပြေအရှည်ပေါ်သောခေတ်, အသစ်အဆန်း နည်းနာနယအမျိုးမျိုးပေါ်သောခေတ် စသည်ဖြင့် ပိုင်းခြားရုံမျှနှင့်အနံ့အပြား မမှန်မကန်နိုင်ပေ။ ၀ေါဟာရသုံးပုံကောင်းခြင်း အစဉ်အဆက်နည်းခိုးလောက်သည် စံပြုလောက်သည် တံတားသဘွယ် အားထား၍ လျှောက်လောက်သည် ဆိုသောကဗျာစာပေ သဘောများကိုလည်း များစွာ ကြည့်ရှုဆုံးဖြတ်အပ်ပေသည်။ ဇာတ်ပေါင်းတွင် ရှင်ရဋ္ဌသာရက မိမိ၏စာပေများသည် တံတားသဖွယ် ဖြစ်ကြောင်းများကို စပ်ဆိုထားရှိပေသည်။ သတိပြုရန်မှာ မွေးစကပင် အလိုလိုတတ်မြောက်လာသည်ဟူ၍ ဓမ္မတာ(သဘာ၀)မရှိ။ အထုံပါမှ လေ့လာမှဆည်းပူးမှသာ အဘယ်ပညာကိုမဆို တတ်မြောက်နိုင်ပေသည်။ သို့လေ့လာဆည်းပူးရန်မှာ ဆရာကင်း၍ မဖြစ်။ နည်းခိုးလောက် စံပြုလောက်သောဆရာရှိရစမြဲဖြစ်လေသည်။ ထိုကိုမသိသော ယခုခေတ် ဉာဏ်နုသူတို့သည် ဦးပုညကိုပင် ဦးတိုး၏ပြောင်လက်သော စာများကို တစွန်းတစ ယူငင်သောကြောင့် သူခိုးကြီးဦးပုည ဟုရေးသားများကို တွေ့ရသည်။ (နောက်၌ သာ

လွန်ထင်ရှားအံ့) ကိုယ်ပိုင်ဉာဏ်နည်းသည်များသည် စသည်ဖြင့်သာ ခွဲခြား စွပ်စွဲဘို့ကောင်းသည်။ ဤအချက်ကို ကြပ်ကြပ်သတိပြုလျက် အရမ်းမဲ့ပြစ်မှားကြရန် မသင့်ပေ။

(ဥပမာ)ယခုနောက်ဆုံး ကျွန်ုပ်တို့ခေတ်၌ ကောင်းလှသည်ဆိုသော မဃဒေဝ၌ ရှင်သီလဝံသနှင့်ရှင်မဟာရဋ္ဌသာရတို့၏လက်ရာများ အရာမကပါဝင်လျက်ရှိသည်ကို မြန်မာဘာသာ အဟုတ်အဟတ် လိုက်စားသူတိုင်း သိနိုင်သည်။ ဤမျှမက အကြံတူသော်လည်း နောက်လူက သာချင်မှသာကြောင်း သတိပြုသင့်သေးသည်။

## ရတနာရှိရာ ရတနာလာ

ပေလေးပင် ရှင်လေးပါး သိုက်အဝင် ရှင်သီလဝံသ ပုဂ္ဂိုလ်ကျော်သည် ငယ်ဆရာဖြစ်သော တောင်တွင်းကြီးမြို့ ငှက်ပစ်တောင်နတ်မီး(လင်း)ဆရာတော်ထံ၌ သီတင်းသုံးနေစဉ် သကရာဇ် ၅၈၃ ခုနှစ်လောက်၌ "ပါရမီတော်ခဏ်း"ပျို့ကို အပြီးရေးသားခဲ့ပြီးနောက် ဆရာတကာအပေါင်းတို့၏ကန့်မြစ်ခြင်းကို ဝန်ခံတော်မမူဘဲ ကျမ်းတတ်ပေါရာ မဟာပဋိရူပရတနာပူရအဝနေပြည်တော်သို့ မကြာမီ ကြွရောက်ခဲ့ပေသတည်း။

ဤသို့ ကြွလာရာတွင် လမ်းခရီး၌ တည်းခိုခိုက် အာဝါသိကဆရာတော်ဘုရားက ပါရမီခဏ်းကို အချို့နေရာ၌ ကျမ်းဂန်နှင့်ညီအောင် ပြင်ဆင်လိုက်ကြောင်းနှင့်အရပ်ရပ်မှတ်တမ်းအဋ္ဌုပ္ပတ္တိများ၌ တွေ့ရသည်။ သို့ပြင်ဆင်သည့်အချက်တို့တွင် ပြင်ဆင်သည့်ဆရာကပင် မှားသလော၊ ရေးစပ်ရှင်းဆရာကပင် မချေပနိုင်၍လော၊ အဋ္ဌုပ္ပတ္တိမှတ်တမ်းများကပင် မဟုတ်မမှန လုပ်ကြံရေးသားခြင်းကြောင့်လောဟု သို့လော သို့လော တွေးတောဘွယ်ရာများကို တွေ့ရှိရပေသည်။ အမှားဖမ်းရာတွင် မမိသောအချက်များဟူလို။ (ဥပမာ)"ဇောဓိမဏ္ဍိုင်၊ ခန်းဝါပိုင်က၊ ချက်ရှိုင်ပြည့်စုံ၊ သဗ္ဗဂုဏ်"ဟု ရှင်သီလဝံသစပ်ရင်းကို ဇောဓိမဏ္ဍိုင်၌ ဂုဏ်တော်ဟူသမျှ မရသေးသောကြောင့်

ချက်ရိုင်ပြည့်စုံ နဝဂုဏ်တည့်ဟု ပြင်ဆင်သည်ဆို၏။ ရှင်သီလဝံသကား ဓမ္မပဒ ယမကဝဂ် သာရိပုတ္တတ္ထေရဝတ္ထု ဇမ္ဗူမိတ်ဆွေရိုက် ၆၂ မျက်နှာ၌ "ဒသဗလ စတုဝေသာရဇ္ဇာဒိ(သဗ္ဗဂုဏ ပဋိမဏ္ဍိတံ သဗ္ဗညုတဏံ)ပဋိဝိဇ္ဈိတွာ ဟူသော အဋ္ဌကထာဆရာစကားအတိုင်း စပ်ဆိုထားခြင်း ဖြစ်ပေသည်။ "အား ၁၀ ပါး၊ ဝေသာရဇ္ဇလေးပါး စသော (အလုံးစုံသော ဂုဏ်တော်အပေါင်းတို့ဖြင့် တန်ဆာဆင်အပ်သော သဗ္ဗညုတဉာဏ်ကို)ထိုးထွင်းသိရှိတော်မူ၍"ဟု မြန်မာပြန်။

## ပျို့ကဗျာပြိုင်ပွဲကြီး ကျင်းပပုံ

နေပြည်တော်သို့ ဆိုက်ရောက်တော်မူလာလျှင် အသင့်ပါလာခဲ့သော ပျို့ကဗျာများကို ဘုရင်မင်းခေါင်သို့ သုံးသပ်စေခြင်း မေတ္တာစာများ ဆက်သွင်းခြင်း ပြုတော်မူ၏။ ဘုရင်မင်းမြတ်လည်း စေတနာထက်သန် ကြည်ညို သည့်အလျောက် "ရတနာဗိမာန်"ကျောင်းတော်ကို လှူဒါန်းလျက် ကိုးကွယ်ဆည်းကပ်တော်မူလေသည်။

၎င်းနောက် နှစ်ပေါင်းများစွာ ကြာသောအခါ ရှင်ရဋ္ဌသာရ၏ဘူရိဒတ်လင်္ကာကြီး ဘူရိဒတ်ဇာတ်ပေါင်းတို့နှင့်ပါရမီခဏ်းပျို့ကို စာပွဲသဘင်ကြီး ပြုလုပ်ကျင်းပကာ ယှဉ်ပြိုင်ကြားနာတော်မူလေ့ရှိသတတ်။

ထိုအခါက နန်းတွင်း နန်းပြင်မကျန် ဘုရင်မင်းမြတ်မှ ဆင်းရဲသားကျွန်တော်မျိုးများအထိ ရှင်သီလဝံသ, ရှင်မဟာရဋ္ဌ ပုဂ္ဂိုလ်မြတ်တို့၏ ကဗျာစာပေတို့ဖြင့် အချိန်ဖြုံးကြကာ အထက်တန်းကျသော စာပေအရသာကို နှစ်နှစ်ချိုက်ချိုက် မြိန်မြိန်ရှက်ရှက်ကြီး ခံစားသုံးဆောင်ကြကုန်၏။ စကားပြောလျှင် ပါရမီခဏ်း, ဘူရိဒတ်လင်္ကာ, ဇာတ်ပေါင်းတို့မပါလျှင် မပြီးသလောက်ရှိပေ၏။ သူ့ဆရာက သာသည် ငါ့ဆရာက တော်သည် စသည်ဖြင့် ငြင်းခုံကြကုန်၏။ ထို့ကြောင့်ပင် ကာကွယ်ရေး၌ အလစ်ဟင်းကြီးလစ်ဟင်း

ကာ ရှမ်းသို့ဟန်ဘွား မတရားဝင်ရောက်ပြုမူခြင်းကို ခံကြရလေသည်ဟုယခု တိုင် ပြောစမှတ်ပြုကြ၏။

## စကားစစ်ပွဲ

စာပွဲသဘင် ဆင်ယင်ယှဉ်ပြိုင်ရုံသာမက အရှင်နှစ်ပါးတို့အား ရွှေ နန်းတော်တွင် စကားမေးဖြေ အချေအတင် ဆွေးနွေးစေလျက် စုံစမ်းထောက် လှမ်းတော်မူစေသည်။ ထိုအခိုက် ရှင်ရဋ္ဌသာရမှာ ပိုးသင်္ကန်းဝတ်ရုံလျက် ရှိ သေး၏။ သင်္ကန်းအရောင်မှာ အတန်ပင် နုနယ်သစ်လွင်ပုံရသည်။ နန္ဒင်း တက်ရေစသည်တို့ဖြင့် ဆိုးရေမပြုရန် ဘုရားရှင်တားမြစ်ချက် ရှိသော်လည်း သင်္ကန်းမှာ နန္ဒင်းရောင်ပေါက်နေပုံရသည်။ ထို့ကြောင့် ရှင်သီလဝံသက "အဝမြို့က ရဟန်းတော်များသည် အဝတ်၌ လျှပ်ပေါ်လော်လည်ခြင်း ကင်း ပါစိမ့်"ဟု မေးလေရာ ရှင်ရဋ္ဌသာရသည် မည်သို့မျှ ပြန်လှန်မပြောက် ဆိတ် ဆိတ်သာနေတော်မူသတတ်။

ရှင်သီလဝံသမှာ အတန်ပင် အရုပ်ဆိုးတော်မူပုံရသည်။ ထို့ကြောင့် ရှင်မဟာရဋ္ဌသာရက ရှင်သီလဝံသသို့ စိမ်းစိမ်းရှုကာ "နှမတော် အမတော် များ ရှိပါသလား"ဟု ရုတ်တရက် မေးရာတွင် ဆိုလိုရင်း သိလိုရင်းကို ရိပ် မိကာ (ခေတ်သုံးအားဖြင့်) အကင်းပါးသော ရှင်သီလဝံသက "အိမ်ထောင်ပြု ပြီးပါပြီ"ဟု ပိတ်ဆို့ဖြေဆိုသတတ်။ မောင်ပင် ဤမျှအရုပ်ဆိုးပါက နှမဖြစ် သူ ကြင်ရာရပါဦးမည်လားဟူသော အာဘော်နှင့်ရှင်ရဋ္ဌသာရက မေးမြန်း ခြင်းဖြစ်သည်။

ဤအကြောင်းများကို ထောက်သော် ရှင်သီလဝံသနှင့်ရှင်ရဋ္ဌသာရ အမေးအဖြေခေါ် စာတမ်းငယ်ပါ အမှတ်အသားတို့သည် အားလုံးမမှန်သော် လည်း ဟုတ်တန်သလောက် ဟုတ်ပေရာသည်။ ဤသို့ စကားစစ်ပွဲကျင်းပ သည်မှာ အမှန်ပင် ဖြစ်သည်။ (နောက်နား၌ ထင်ရှားအံ့။ ပရိဖက်ဆာဆရာ လွန်း၏ကဗျာသာရတ္ထသင်္ဂြိုဟ်၌ ထိုစာတမ်းငယ်ကို စာရှုပ်, စာလိမ်, စာသိမ်

စာနုပ်ကလေးမျှဖြစ်ကြောင်း မှတ်ချက်ချထားသည်မှာလည်း အမှန်ပင်ဖြစ်စရာ ရှိပါသည်။ စကားစစ်ဆိုရာတွင် အထက်၌ ပြခဲ့သော အကြောင်းများလောက်ကိုသာ မေးဖြေကြမည်ကား မဟုတ်ပေ၊ အခြားများစွာပင် ရှိတန်ကောင်း၏။

## ဆုတောင်းခဏ်း စပ်ရပုံ

ငင်းနောက် ဘုရင်မင်းမြတ်က ပါရမီပျို့ စကားအသွားအလာသင့်မသင့်ကို ရှင်ရဋ္ဌသာရသို့ လျှောက်ထားသတတ်၊ ပါရမီကဗျာ ကောင်းမွန်လှကြောင်းနှင့်လျှောက်ထားသည်ဟုလည်း ဆိုကြသည်။ ထိုအခါ ရှင်ရဋ္ဌသာရက "စာကိုယ်ကို မကြည့်ရှုရသေးသောကြောင့် သင့်-မသင့်(ဝါ)ကောင်း မကောင်း မမြွက်လိုသေးပါ။ ပါရမီကို မည်မျှဖြည့်သော်လည်း ဘုရားဆုကို တောင်းမှသာ ဘုရားဖြစ်နိုင်တယ် တကာတော်မင်းမြတ်"ဟုသာ မိန့်တော်မူသည်။ ပွဲပြီး၍ ထိုစကားကို ကြားသိတော်မူသော ရှင်သီလဝံသသည် ကျောင်းသို့ပြန်အရောက်တွင် "ဆုတောင်းခဏ်း"ကို ၃-ရက်နှင့်အပြီးစပ်ဆိုသတတ်။

## တောင်တွင်းလာပျို့

ထိုအတွင်း၌ပင် "တောင်တွင်းလာပျို့"ကိုလည်း စပ်ဆိုဟန်တူသည် သီတင်းသုံးရင်း တောင်တွင်းကြီးမှ နေပြည်တော်သို့ ကြွရောက်ရခြင်းအကြောင်းများနှင့်အခြင်းအရာများကို "ပဟေဠိ"(ခေါ်စကားဝှက်)များဖြင့် ရေးသားထားလေသည်။ သာမန်ပုဂ္ဂိုလ်တို့ မသိရှိနိုင်သောကြောင့် ကိုယ်တော်တိုင်အဖြေရေးသားပြန်သော်လည်း ကဗျာစီကုံးကာ ဖြေထားပြန်သောကြောင့် ထိုတောင်တွင်းလာအဖြေကိုပင် သာမန်ပုဂ္ဂိုလ်တို့ မကြည့်ရှုနိုင်ဘဲ ရှိရသည်။ (ဤဆောင်းပါးအတွက် ငင်းပျို့သည် အထောက်အထားများစွာ ရစေ၏။)

## အမိုက်တလိုင်း

ထိုဆိုခဲ့သော ဆုတောင်းခဏ်း ၄၈-ပိုဒ်မြောက်တွင်-

ခရီးထင်ကို၊ ဖင်ဖင်မထိုက်၊ မသွားပိုက်၍၊ အမိုက်တလိုင်း၊ အဖြစ်တိုင်းလျှင်၊ ခိုင်းသည့်ဆင်းရဲ။

စသည်ဖြင့် စပ်ဆိုထားပေ၏။ ။ဤတွင် (၁)အမိုက်တလိုင်း ဟူရာ၌ "တလိုင်း"ဟူသည် စက်ဆုပ်ဘွယ် လူမသူတော်မှန်သမျှကို ရ၏။ တလ္လ, တလိန ဟူသော(ပါဠိ)မှ တလိုင်းဖြစ်လာသည်။ ဤအလို သံသရာ၌ ထင်ရှားသော ခရီးကောင်းကို မလိုက်မသွားသော အမိုက်တလိုင်းသည် ဖြစ်ရာဘဝတိုင်း ဆင်းရဲကြုံရမည်ဟု အဓိပ္ပါယ်ထွက်၏။ (၂)သို့သော် သဟဇာတ်မဖြစ်လှသော တလိုင်းလူမျိုး ရှင်မဟာရဋ္ဌသာရက ငါ့ကို စောင်းချိပ်ရေးသားသည်ဟုမှတ်ယူခွင့်ရှိသော (ဒွါဓိပ္ပါယ)အဓိပ္ပါယ် ၂ မျိုးရသောစကား ဖြစ်ပေသည်။ ဤလည်း တချက်။ ။

**ထုံ-အ-သလိုဘဲ**

စကားဆိုစဉ်က "အဝမြို့က ရဟန်းတော်များ အရောင်အဆင်း တသသ-တပပပြုလုပ်ဝတ်ဆင်ခြင်း ကင်းပါစိမ့်"ဟု မေးတော်မူရာ ရှင်ရဋ္ဌသာရက ပြန်၍ မမြွက်-ရွံ့ရှာထုံအ,သကဲ့သို့ ဖြစ်နေကြောင်းကိုလည်းတောင်တွင်းလာပျို့တွင်-

ရောင်ပြေသ, လွင်၊ မေးရာတွင်လည်း၊ သခင်မချေ၊ ဝတ်ထွေလွင်ပ၊ ရှင်လေမျှမူ၊ ဤရတူသည်။

ဟုစပ်ဆိုသည်။ ရှင်လေ, ရှင်လွင့်, ရှင်ပေါ့များနှင့်ဘာထူးသနည်းဟုဆိုလိုသည်။ တောင်တွင်းလာအဖြေကဗျာများတွင်လည်း-

တမုတ်နယ်နု၊ ပန်းဆိုးမှုနှင့်၊ ရောင်ပြေသ, လွင်၊ ဆိုးပါချင်စမ့်(ဟူ၍ငင်း)

ဆိုမှုခဲအင်၊ နနှင့်တင်သည်၊ ဘဝင်ဇောစိတ်၊ "တိ"နှင့်"ဟိတ်"ကား၊ ဘိသိက်တင်ထိုက်၊ အမိုက်နည်းလှ၊ ဉာဏ်သန္ဓေ၊ ကောင်းစွာနေလည်း၊ ရှဲ့ပေသောအား(ဟူ၍ငင်း)

စပ်ဆိုထားရှိပေသည်။ ဉာဏ်ပညာ ထက်မြက်စူးယှသော "တိဟိတ်"ပဋိသန္ဓေနေသူမျိုး ဖြစ်ပါလျက်နှင့်"တိတ်"တိတ်နေကြောင်းကို စပ်သည်။ သူအ, သူဆွံ့များကို အဋ္ဌကထာ ဋီကာတို့က ပဋိသန္ဓေဟိတ် မပြည့်စုံကြောင်းဖွင့်ကြ၏။

## ပြည့်စုံခဲ့ပြ

ဆုတောင်းမှသာ ဘုရားဖြစ်နိုင်ကြောင်း မိန့်သည်ကို ပြန်လည်ချေပသောအားဖြင့် တောင်တွင်းလာ "သဝေလောင်းပြန်"ချီအပိုဒ်၌-

ဗေဒင်တိတ္ထုံ၊ အာရုံ-အာရမ္မဏ၊ အစအဆုံး၊ ပုလဲကုံးသို့၊ ကျဉ်းရုံး အချာ၊ နာနာရူပ၊ အဋ္ဌကထာ၊ ဆိုရာခြေမှု၊ တန္တုနည်းထီး၊ ပမာနီးအံ့၊ ရုပ်သီးပျူငှာ၊ အင်္ဂါရေသား၊ မမွတ်ထွားလည်း၊ ကြောင်းလျားထွေလာ၊ စ,ကာစကား၊ ရုပ်ဆန်းပြားသည်၊ စကားရေးက ရှိသေး၏။

ကောင်းစွာ ပြည့်စုံပြီ၊ အပြစ်မပြုနှင့်တော့၊ ပြုစရာ ပြောစရာ မရှိပြီဟူလို။

## ငါ့စာကိုကြည့်

ဘုရင်မင်းမြတ်လျှောက်ထားစဉ်က စာကို မကြည့်ရှုရသေးကြောင်း မိန့်သည့်အတွက် တောင်တွင်းလာ "စေစေပါပါ"ချီအပိုဒ်တွင်-

ရဋ္ဌသာရ၊ မှတ်ထတွင်ခေါ်၊ ရှစ်ဘော်အင်္ဂါ၊ ညီစွာစုံလွန့်၊ မြတ်ထေမွန်ကို၊ ခန့်ရန်နားထောင်၊ ကြားပေအောင်လျှင်၊ ပြပေချင်မူ၊ ရှုနှင့်ဉကို၊ မြန်မာဆိုသား၊ ရကိုသဒ္ဒ၊ ဓာတ်ဖြင့်ပြ၏၊ ကျော်ကြသံဝါ။

စသည်ဖြင့် အလွန်ကျော်စောသည်ဟု ဩဘာရသော ရဋ္ဌသာရထေရ် နား ထောင်ရန် ပြစမ်းချင်ပါဘိ၊ ငါ့စာကို ကြည့်ပါဦးဟုဆိုလိုသည်။

## ရတုစစ်ပွဲကြီး

ဤတွင်မှ ရှင်ရဋ္ဌသာရလည်း ပါရမီခဏ်း၊ ဆုတောင်းခဏ်း၊ တောင်တွင်းလာပျို့ သုံးစောင်လုံးကို ရှင်သီလဝံသထံမှ ထုတ်ယူကြည့်ရှုပြန် သည်။ ယခင်အထက်က ဘုရင်မင်းမြတ်၏လျှောက်ထားချက်ကိုလည်း ပြန် လှန်မိန့်ကြားသောအားဖြင့် ဧကပိုဒ်ရတုတပိုဒ်, ဘုရင်မင်းခေါင်ထံတစောင်, ရှင်သီလဝံသထံတစောင် ပေးပို့လိုက်သည်။ ထိုအခါ ရှင်သီလဝံသကလည်း အားကျမခံ ရတုတပုဒ် စီကုံးလျက် မင်းခေါင်ထံ တင်သွင်းလိုက်ပြန်သည်။ ထိုရတုများကား–

**ရှင်ရဋ္ဌသာရ–ရတု**

မေးဖြေဖြောင့်၍၊ ရှစ်သောင့်လေးထောင်၊ အစောက်ဆောင်သည်၊ တောင်၏ထိပ်ဆီ၊ မြင့်မိုရ်ညီ၏၊ အစီအစဉ်၊ အလျဉ်မပြတ်၊ လေးကျွန်းပတ် သား၊ နက္ခတ်တာရာ၊ ကြယ်ပမာသို့၊ လင်္ကာကုံးသီ၊ စကားစီပိမ့်။

"အချီအချ၊ သတ္တရတနာ၊ လင်္ကာနှင့်ဆန်း၊ ဆိုညွှန်းမိန့်သင့်၊ အဖွင့်ခြောက်တန်၊ သမ္ဗာန်ခြောက်ပါး၊ စာသွားစာစပ်၊ စကားချပ်နှင့်၊ စူးအပ် ရာထား၊ ဆားဖုံးမသိန်၊ စိန်နှင့်သလင်း"တွင်းတူးတွင်းနေ"လေးပါးထွေကို၊ စေ့ရေဆိုမှု။ ။

မုဒ္ဒဝစန၊ (ဇဝန)၊ တိက္ခကာသော်၊ လေးပါးကျော်သား၊ အာဘော် ထုတ်၍၊ စုဒ်စောဒနာ၊ ပဒအနက်၊ (စုဒ်စောဒနာ–သဒ္ဒါအနက်)စက်နှင့်ပိုင်း၍၊ တိုင်းတိုင်း–ဗွင်ဗွင်၊ သွင်သွင်ရထား၊ ထွက်ကရားသို့၊ စကားအင်စုံ၊ နှုတ် ဝယ်ငုံလျက်။ ။

အာဂုံအာဂါ၊ ပညာမျက်စိ၊ သတိဖြန့်မိုး၊ ဉာဏ်အရိုးကို၊ ဖြောင့်ထိုးထွင်းမှန်၊ ကရိုက်းဉာဏ်ဖြင့်၊ (လက်ရွေးဆန်သို့)။ ။

ကာချန်ပစ်ချ၊ အနှစ်ရမြဲ၊ သာရခဲကို၊ အထဲမယူ၊ တံချူမဆွတ်၊ မညွှတ်လေ၍၊ နည်းမတွေ့တည့်။ ။

ခြသေ့်ဆီလျက်၊ သိင်္ဂီခွက်တွင်၊ အမြဲတင်သို့၊ အစဉ်သန့်သန့်၊ လရောင်ဖြန့်သည်၊ ကောင်းညွှန့်ထွေပြား၊ စကားသင့်(တတ်)အောင်ဆိုစေသော်။။

## ရှင်သီလဝံသ–ရတု

ဤသို့စုံစီ၊ တောင်ကိုသီသို့၊ ဤတွင်ရွေ့ကား၊ ချောမွေ့သာယာ၊ ဒေသနာ၏(ဖြင့်)၊ ဂါထာအနက်၊ အစုံဖက်လျက်၊ ကျမ်းထွက်အညီ၊ လင်္ကာစီသား၊ ပန်းချီရေးခွက်၊ ဆေးမစက်သို့၊ ပဒက္ခရ၊ ဝဏ္ဏမတြာ၊လ၊အနုမြူညင်း၊မြင့်မိုရ်ထွင်းသို့။ ။



သတင်းဝှန်ခြောက်၊ တောင်ကိုဖောက်သည့်၊ စိန်ကျောက်ပမာ၊ သီလဝါလျှင်။ ။

ရတနာမွေ့လျော်၊ ဓာတ်တော်စုံပုံ၊ ထူပါရုံဝယ်၊ စည်းခုံလုံးညီ၊ မဟေသီ၌ “...ပေ...”မပြတ်တံမျက်၊ ရှိဝတ်တက်၍။ ။

...ပေ...နောင်လာတို့အား၊ တပည့်သား(များ)ကို၊ မှတ်သားဆောင်ကျဉ်း၊ ဂုဏ်ကိုဖျဉ်း၍၊ စိုးစဉ်းကျမ်းဂန်၊ တတ်သောဟန်ကား၊ မာန်လည်းတင်းလင်း၊ စိတ်ဟင်းလင်းနှင့်၊ အတွင်းတရား၊ ပြင်မှာ(ပ)ထား၍၊ ပြင်တရားကို၊ ဝမ်းထည်းသိမှု(ထိမ်ဝှက်သိမှု)၊ တိုးယိုပက်ပါ၊ မြစ်လဟာသို့၊ ပညာကျယ်လျက်၊ အဝင်နက်သည်၊ ဝင်လေးချက်မှာ၊ တွတ်တွတ်ပါ၏။

ငါသာငါထက်၊ မာန်မတက်နှင့်၊ အထက်နေမင်း၊ လေးကျွန်းချင်းလည်း၊ မလင်းတိမ်တိုက်၊ တကျွန်းမိုက်၏။ ။

။...ပေ...။ လကိုနှုန်းထွေ, နေကိုနှုန်းသင့်၊ မြေနှင့်ပမာ၊ ကျင့်အပ်စွာ၏...ပေ...

သရက်နှင့်အိုး၊ ကြွက်နှင့်မိုးသို့။လ။...ပေ...မဟာသီလဝံသ၊ ဉာဏနက်စံ၊ အဖြည့်ခံဟု၊ ပုံစံငှဆည်း၊ သံပိုင်းတည်းသည်။ ။ကဗျည်းရွှေစာမော်ကွန်းတည်း။ ။

## ရှင်းလင်းဖော်ပြချက်

သိသာရုံမျှသာ ရှင်းလင်းအံ့။ ရှင်ရဋ္ဌသာရ၏ရတု၌ "မေး–ဖြေ–ဖြောင့်၍။ ...ပေ...။ ကောင်းညွန့်ထွေပြား၊ စကားသင့်အောင် ဆိုစေသော်"ဟုရာ၌ အမေးအဖြေ ဖြောင့်တန်းမှန်ကန်စွာ ဘတ်နာသူတို့နှလုံး ရွှင်လန်းဘွယ်စီကုံးရေးသားရမည်ဟု တိုက်တွန်းလိုသည် (ရတုတပုဒ်လုံး၏ ဆိုလိုရင်းပေတည်း)။ ပါရမီခဏ်း ဆုတောင်းခဏ်း တောင်တွင်းလာတို့တွင် ကြမ်းတမ်းသော ဂမ္ဘဒေါသ–ဝိရုဒ္ဓဒေါသ–ကျမ်းဂန်နှင့်မညီသော ဒေါသစသော အပြစ်ဒေါသများ မလွတ်ကင်းသောကြောင့် ဤသို့ တိုက်တွန်းခြင်းဖြစ်သည်(ရှေ့နားတွင် သာလွန်ထင်ရှားအံ့)။

"ရတုနှစ်ပုဒ် ယှဉ်ဖတ်သော်၊ နက္ခတ်တာရာ၊ ကြယ်ပမာသို့၊ လက်ာကုံးသီ၊ စကားစီပိမ့်"ဟူသော ရှင်ရဋ္ဌသာရ စကားကို ရှင်သီလဝံသက ထို့ထက်သာလွန်အောင် "ဤသို့စုံစီ၊ တောင်ကိုသီသို့"ဟုစပ်သည်["တောင်ကိုသီ"ဟူသော စကားနှင့်ကိုက်အောင်၊ သတင်းဝှန်ခြောက်၊ တောင်ကို ဖောက်သည့်၊ စိန်ကျောက်ပမာ၊ သီလဝါဟု ရှင်သီလဝံသက သံပေါက်စပ်ကြောင်းပြောစမှတ်ပြုကြသည်မှာ သက်သက်လုပ်ကြံမှုသာတည်း"]

ရှင်ရဋ္ဌသာရမှာ အတော်ပင် မာနကြီးပေသည်။ အရှင်၏စာပေနိဒါန်းနိဂုံးတို့၌ မာနသံများ မိုးမွှန်နေပေသည်။ (အတ္တုက္ကံသန)မိမိကိုယ်ကိုချီးမြှောက်ခြင်း၊ အထင်ကြီးခြင်း၊ သူတပါးကို နှိမ်ချခြင်း သဘောများတွေ့ရ

သည်။ ကြီးလည်း ကြီးလောက်ပေသည်(ကျယ်မည်စိုး၍ ထုတ်မပြလိုက်ပြီ)။ ကိုးခဏ်းကို စပ်သောအရွယ်လောက်၌ မာနကို အတော်ပင် ချိုးနှိမ်ပြီး ကြောင်း တွေ့ရသည်။ ကိုးခဏ်းနိဂုံး၌

ငါနှင့်ငါသာ၊ နှိုင်းစရာဟု၊ ပညာမုန်ယို၊ အရွယ်ပျိုက၊ မဆိုစ လောက်၊ မာန်စောင်မြောက်၍၊ နှုတ်ငေါက်လွန်မိ၊ ဒေါသရှိလည်း၊ နှောင်ပြို တခါ၊ ရှိသေစွာလျှင်၊ ဤစာကိုးခဏ်း၊ ပုလဲပန်းဖြင့်၊ စိတ်ကျန်းညွတ်လျော့၊ ငါကန်တော့၏။

စသည်ဖြင့် ဖြစ်မိသော မာနစွမ်းကို ချိုးပြီးလျှင် ရိုကျိုးခယ နိမာန–သွေး ပေါက်ကြောင်း စပ်ဆိုထားရှိပေသည်။ ထို့ကြောင့် ရှင်သီလဝံသက "လူ လိမ္မာ့အမျက်–ပြင်မထွက်"ဟူသကဲ့သို့ အတွင်းတရားဖြစ်သော ဒေါသမာန တွေကို အပြင်သို့ မထုတ်သင့်ကြောင်း၊ ဟန်ပန်များသော အပေါ်ယံအစားတို့ သာ ထိုကဲ့သို့ အတွင်းတရား ပြင်ပဝယ် ထားတတ်ကြောင်းများကိုလည်း "စိုးစဉ်းကျမ်းဂန်၊ တတ်သောဟန်ကား၊ မာန်လည်းတင်းတင်း၊ အတွင်းတရား ၊ ပြင်ပထား၍၊ ပြင်တရားကို–ဝမ်းထဲသိုမှု"စသည်ဖြင့် စပ်ဆိုသည်။

မြစ်နှင့်ပမာပြ၍၊ "ပညာကျယ်လျက်၊ အဝင်နက်ကြောင်း"များလည်း ထိမိပါပေသည်။ "တွင်းတူးတွင်းနေ"ဟူသော ရှင်ရဋ္ဌသာရ၏စကားအရကို ၎င်း၊ "သရက်နှင့်အိုး၊ ကြွက်နှင့်မိုး"ဟူသော ရှင်သီလဝံသစကားအရကို၎င်း သုတ်မဟာဝါအဋ္ဌကထာ၌ အကျယ်ရှုအပ်၏။ ဦးပေါ်ဦးလျှောက်ထုံး၌လည်း ရှိသည်။ မန်လည်ဆရာတော်ကလည်း မဃဒေဝ၌–

လောကအားလုံး၊ မြတ်ထွဋ်ဆုံးတို့၊ သိမ်းကြုံးဟောမြွက်၊ ဓမ္မစက် ကား၊ (၁)ချုန်းလျက်မရွာ။ (၂)ရွာလျက်မချုန်း၊ (၃)မချုန်းမရွာ၊ (၄)ချုန်းရွာ ရွာသား၊ လေးဖြာမိုးနယ်၊ လူဝယ်လေးကွဲ၊ သဘောမြဲ၏။

(၁)မပြည့်ဘဲပိတ်၊ (၂)ပြည့်မပိတ်နှင့်၊ (၃)မပိတ်မပြည့်၊ (၄)ပိတ်ပြည့်ပြည့်သား၊ အိုး၏လေးချက်၊ လေးမျိုးထွက်၏။

(၁)တိမ်လျက်နက်ယောင်၊ (၂)နက်တိမ်ယောင်နှင့်၊ (၃)တိမ်ယောင်တိမ်လျက်၊ (၄)နက်ယောင်နက်သား၊ လေးချက်အိုင်ရေ၊ ဖြစ်မြဲနေနှင့်။

တထွေလူ့ဘောင်၊ (၁)စိမ်းယောင်နှင့်မှည့်၊ (၂)မှည့်ယောင်နှင့်စိမ်း၊ (၃)စိမ်းယောင်စိမ်းလှည့်၊ (၄)မှည့်ယောင်မှည့်သား၊ သရက်၏ထုံး၊ လေးလုံးမှန်စွာ။ ။

တဖြာအထူး။ (၁)တွင်းတူးမအောင်း၊ (၂)တွင်းအောင်းမတူး၊ (၃)မတူးမအောင်း၊ (၄)တူးအောင်းအောင်းသား၊ မှတ်ကြောင်းခေါ်ရိုး။ ကြွက်လေးမျိုးတည်း။

မိုးနှင့်သရက်၊ အိုးနှင့်ကြွက်သို့၊ တိမ်နက်ရေတူ၊ လေးမျိုးလူကို၊ မှတ်ယူရိပ်မြွက်၊ သိနိုင်ခက်၏။ ထဲနက်ပညာ၊ အလိမ္မာဖြင့်။

စသည်ဖြင့် စပ်ဆိုထားရှိပေသည်။ အမတ်ကြီးမဟာမင်းလှမင်းခေါင်၏သုတသောမပျို့(ဟံသာဝတီရိုက်–၄၀)၌လည်း ဤသို့နှင့်နှင် အတုယူစပ်ဆိုထားရှိပေသေး၏။ ရှုလေ။ ရှင်ရဋ္ဌသာရ၏အခြားရတုတပုဒ်၌လည်း–

နှစ်စုခွဲဝေ၊ ဒွေးရှစ်ထွေကို၊ သိနေမှန်စွာ၊ ကြောင်းခြင်းရာမူ၊ ပမာဆိုရိုး၊ မိုးနှင့်သရက်၊ အိုးနှင့်ကြွက်သို့၊ သိခက်ခဲစွာ၊ ပညာတိမ်ညင်၊ ကြံဆင်ခြင်၍၊ ကြယ်လျှင်ကားချဲ့၊ ပဲ့လျှင်ဖဲ့လော့၊ နွဲ့လျှင်ကားသပ်၊ ခိုင်လျှင်ထပ်လော့။ စသည်ဖြင့် တွေ့ရသည်။

ဤစကားအတိုင်းလိုပင် ကဝိလက္ခဏာသတ်ပုံ၌ “နွဲ့လျှင်ကားသပ်၊ ခိုင်လျှင်ထပ်၊ ကျပ်လျှင်သပ်ပင်းပါ”ဟု ဦးဩစပ်ဆိုခဲ့ပေသည်။ စွယ်စုံကျော်

ထင်၌လည်း "ကျယ်လျှင်ကားချဲ့၊ ပဲ့လျှင်ဖဲ့၊ နွဲ့လျှင်ကားသပ် မည်သို့နည်း" ဟုကျည်းကန်ရှင်ကြီး စပ်ဆိုထားရှိ၏။

ရှင်ရဋ္ဌသာရ-ရတု၌ "ဖြောင့်ထိုးထွင်းမှန်၊ ကာချန်ပစ်ချ၊ အနှစ်ရမြဲ၊ သာရခဲကို၊ အထဲမယူ၊ တံချူမဆွတ်၊ မညွတ်လေ၍၊ နည်းမတွေ့"ဟူရာ၌ ရှင်သီလဝံသလောက် အရှင်မြတ်ကို မမြှောက်စားသောကြောင့် စိတ်နာနာနှင့် ရေးဟန်တူ၏။

ရဋ္ဌသာရ-ဟူသော အရှင်၏ဘွဲ့မှာ "အနှစ်သာရ"ဟု အဓိပ္ပါယ်ရသည့်အတိုင်း အလွန်ဆီလျော်သောစပ်ပုံပေတည်း။ ဤကဲ့သို့ ဘွဲ့တော်ကို ခဏခဏ အမွှန်းတင်စပ်လေ့ရှိသည်။ ။ရွှေစကက်တော်သွားတောလား၌၊

"ဉာဏကဝိ၊ ပဏ္ဍိတစစ်၊ ငါတည်းဖြစ်မူ၊ အနှစ်သာရ၊ သုံးပုံမျှရှင့်" (စသည်ဖြင့်ငင်း)(ကိုးခဏ်းနိဂုံး၌)"ပညာရှိယောင်၊ လွှားထောင်ပေါ်ကြော့၊ ထဲသော့သော့နှင့်၊ စိတ်ပေါ့ပေါင်းပျစ်၊ အိုအောင်ချစ်လည်း၊ အနှစ်မရ(စသည်ဖြင့်ငင်း)

(သံဝရနိဂုံး၌)ရွှေနန်းတော်ဟန်၊ ထိုကျောင်းမွန်၌၊ ငါးတန်နိကာယ်၊ ကိုးသွယ်အင်ညီ၊ ဂမ္ဘီလေးစုံ၊ သုံးပုံပိဋကတ်၊ ဟောမှတ်သဒ္ဒါ၊ လင်္ကာဆန္ဒ၊ နေတ္တိစသည့်၊ သာရထဲလှိုင်း၊ နေ့တိုင်းသင်ပျော်၊ နေသရော်တည့်(ဟူ၍ငင်း) အသီးသီးစပ်ဆိုထားရှိပေသည်။

ရှင်ရဋ္ဌသာရ၏ရတုအဆုံး၌ "ခြသေ့်ဆီလျက်၊ သင်္ဂီခွက်တွင်၊ အမြဲတင်သို့"ဟူသော သဘောသွားမှာ ရှင်သီလဝံသ၏ပါရမီခဏ်းနိဂုံး၌ ပါရှိပေသည်။ ၎င်းကား-

နည်းနာစေ့ရေ၊ ကျမ်းတိုင်းဖွေ၍၊ ဖေါ်ပေစုံဘက်၊ ဤဆီချက်ကို၊ ရွှေခွက်ဖလား၊ ပညာနားဖြင့်။

စသည်ဖြင့် စပ်ဆိုသည်။(အဝခေတ်နောက်မှ ပေါ်သောဆရာတို့သည် ဤသဘောများကို အများအပြား နည်းခိုးစပ်ဆိုလေ့ရှိကုန်၏)

## ပံသုကူကို မယူနိုင်

ရှင်သီလဝံသ၏ "ရောင်ပြုသလွင်" "အမိုက်တလိုင်း" စသောစကားများကို ချေပသောအားဖြင့်လည်း ဘူရိဒတ်ဇာတ်ပေါင်း "သာခန်းထိုသို့"ချီ အပိုဒ်၌

ပျိုတို့တထွေ၊ အောက်မေ့ချေသော်၊ နားဝေနာစည်း၊ နလုံးကျည်းခဲ့။

ဟုစပ်ဆိုပြန်သည်။ ဤအချက်ကို ကဝိလက္ခဏာ၌ နာဝေ နာစည်း၊ နလုံးကျည်း၊ ခြည်းခြည်းသံချိုချို။ ။ဟုစပ်ဆိုထားသည်ကို တွေ့ရ၏။ ၎င်းပြင်၊

ဂမ္ဘီရဒေါသ၊ ဖြင့်မှုသွယ်လောင်း၊ နတ်ရုပ်ဆောင်း၍၊ ပြန်ပြောင်းလိမ်လစ်၊ စကားသစ်ဟု၊ တောင်သူမှုနှင့်၊ ရောရုစပ်ဟပ်၊ အထပ်ထပ်တည့်၊ ချုပ်စပ်ဆည်းဆူ၊ ပံ့သုကူကို၊ မယူပါဘဲ၊ ရွှေနန်းထဲဝယ်။

စသည်ဖြင့် ထီးသုံးနန်းသုံးများကိုသာ သုံးကြောင်းစပ်ဆိုထား၏။ ဤတွင် ပံ့သုကူခေါ် မြေမှုံ့အလိမ်းလိမ်းကပ်သော ဘုရားခွင့်ပြုသော သင်္ကန်းကိုလည်း ရ၏။ ပိုးသင်္ကန်းရုံ၍ အပြစ်ပြောခြင်းကို ချေပရာလည်း ရောက်သည်။

## ကျောင်းကန်အရေး

ဘုရားကြီး၏အရှေ့မြောက် ထူပါရုံစေတီတော်ကြီးဒါယကာနရပတိမင်းမြတ်၏သမီးတော် ရွှေအိမ်သည် ဆောက်လုပ်လှူဒါန်းရင်းဖြစ်သည့်ရတနာဗိမာန်ကျောင်း ကျောက်စာ, စာကြောင်းရေ(၈၃)ကြောင်းမျှကို ရှင်သီလဝံသကိုယ်တိုင် ရေးသားခဲ့ပေသည်။ ရှင်သီလဝံသမှာ ရှစ်ဆက်မြောက် သီတင်းသုံးခြင်းဖြစ်ပေသည်။ ထို့ကြောင့် ၎င်းကျောက်စာနိဂုံး၌။

မဟာသီလဝံသ၊ ထေရ်ကုံငလျှင်၊ မဆွရှေးစို၊ ကျောင်းရိပ်ခိုသား၊ ပုဂ္ဂိုလ်တို့နောက်၊ ရှစ်ဆက်မြောက်၌၊ ပွဲ(ရွှေ)မှောက်နာတန်၊ မှတ်စိမ့်ရန်။ ။ ဟူသော ဧကပိုဒ်ရတုတို့လည်း ပြန်သတိပြု။

(၁)တောင်ဘီလာတောင် (၂)ပုညရင်တောင် (၃)ပတ္တမြားတောင် (၄)တောင်ဘီလူးတောင် (၅)ရွှေတောင်ဦးတောင် (၆)ခဝဲတောင် (၇)နံ့ကိုင်းတောင် (၈)မင်းဝံတောင် (၉)ဝတ်ရုံတောင်ဟူသော တောင် ၉–တောင်တို့တွင် ဇေယျာပူရတိုင်း စစ်ကိုင်းမြို့မြောက် ဝဲပုံတောင်နှင့်အရံ ၃၇ တောင်မျှရှိသော ဝတ်ရုံတောင်ကြီးရှိ၏။ သုံးလူ့ထိပ်ပန်းသည် သက်န်းဝတ်ရုံပုံကို ခြုံရုံ၍ ဌာပနာထားသည်နှင့်မဝေးလှသော ဝတ်ရုံကျောင်းတိုက်၌ ရှင်မဟာရဋ္ဌသာရသီတင်းသုံးသည်။ ကျောင်းဒါယကာမှာ ရွှေနန်းကြော့ရှင် ဘုရင်နရပတိသီတင်းသုံးသည့်ဆရာတော်မှာ ပုဂ္ဂိုလ်ကျော်ငယ်ဆရာ ရှင်မဟာရဋ္ဌသာရ၊ သို့သော် ဆောက်လုပ်လှူဒါန်းသည့်“ဝတ်ရုံကျောင်း”ကား သက်ငယ်မိုးသည့် ဝါးကျောင်းမျှဖြစ်တော့သည်။

ရှင်သီလဝံသကို အားကျမခံ မာန်ဝင်သောကြောင့်တကြောင်း ဘုရင်ကို စိတ်နာသည်ကတကြောင်း ပါရင်းစွဲအစပ်အဟပ်အစီအကုံး ဝါသနာကြောင့်တကြောင်း ဤသို့သော အကြောင်းကြောင်းများကြောင့် စပ်ဆိုသည်ဟုထင်ယူရသော “ဝတ်ရုံကျောင်းဘွဲ့မော်ကွန်း”ဟုရှိသည်။ ဝါးကျောင်းသက်ငယ်မိုးမျှဖြစ်လျက် “မော်ကွန်း”ထိုးလောက်အောင် ဖြစ်ပေါ်လာသည်မှာ မခံချင်လှသော စိတ်က အရင်းခံဖြစ်ဟန်တူ၏။ ထို“မော်ကွန်း”ကို “မဏ္ဍိုင်ဗဟို”အစချီပြီးလျှင်၊

တုမဲ့ရဟန်း၊ သုံးလူ့ပန်း၏၊ သင်္ကန်းမြတ်စွာ၊ ဌာပနာထား၊ မြန်ချာတံခွန်(ဟူ၍ငင်း)

သုံးဆဲ့ခုနစ်တောင်၊ ကုန်အောင်များတောင်း၊ ရံလေရှောင်းသည်။ ။ ဤကျောင်းဝတ်ရုံထင်ရှားတည်း။(ဟူ၍ငင်း)

နရပတိရာဇာ၊ သဒ္ဓါပြတ်ပြတ်၊ ကြည်ညွတ်သောအား၊ သိကြားနှံ့ကျယ်၊ နိကာယ်ငါးဦး၊ ပင်လယ်ကူးတို့၊ ကျေးဇူးနှင့်သော်၊ မလိုက်လျော်တည်း(ဟူ၍ငင်း)

နည်း၏မဟူ၊ သူလှူသရွေ့၊ ခံဝလေ့ဟု၊ အောက်မေ့ကြံထွေ၊ တရားဖြေလျက်၊ စာပေသင်ခြင်း၊ ကျင့်သီတင်းနှင့်၊ မကင်းဘာဝနာ၊ ဆည်းပူးရှာသား၊ မဟာရဋ္ဌ၊ သာရတွင်မည်(ဟူ၍ငင်း)

ဤသည့်ကျောင်းကို၊ နောက်နှောင်းသံဃာ၊ အရိယာတို့၊ မိရာဖြစ်လောက်၊ ကိုယ်တိုင်ဆောက်(ဟူ၍ငင်း)

သက်ငယ်ခေါင်နိမ်၊ ရိပ်ငြိမ်မိုးထ၊ နှီးစမြင်(ဟူ၍ငင်း)

ကျောင်း၏သပ်ရပ်ပုံ ပျော်မွေ့ဘွယ်ကောင်းပုံတို့နှင့်အနေအထားများကိုပါ စပ်ဆိုခဲ့ပေသတည်း။



ဤဝတ်ရုံကျောင်း၌ သီတင်းသုံးစဉ် တပယင်းမင်းကြီးသခ်ယာသည် မြောက်သားတော်နှင့်တကွ ရှင်ရဋ္ဌသာရသို့ ဖူးမြော်ရန် လာရောက်သောအခါ ရှိရင်းဝါးလှေကားကလေးအစား ပျဉ်လှေကား လှူသွားပေ၏။ ရှင်ရဋ္ဌသာရလည်း ကျေးဇူးတင်စွာ မေတ္တာဆက်–မေတ္တာခံအဖြစ်ဖြင့် "ရဋ္ဌသာရ၊ နာမတွင်ခေါ်၊ ဂုဏ်ကြောင့်ကျော်သည်၊ ညီတော်ဆရာ" စသည်ဖြင့် အစချီပြီး မေတ္တာစာများပင် ရေးသားပေးပို့တော်မူ၏။ လှေကားကို ခန်းနားကြီးကျယ်၍ သဒ္ဓါတရားတိုးပွားစေအောင်၊

ဝါးကိုမြင်သော်၊ အလျင်တဆော၊ ပျဉ်ချောရွေချပ်၊ ပျဉ်ဘိနပ်ဖြင့်၊ လ။ လှော်ကားဦးသို့၊ ညွန့်ဖြူးသနစ်၊ လွန်ကျစ်လစ်သား။ (ကိုးထစ်လှေကားလှူသောအားဖြင့် ကိုးပါးလောကုတ္တရာ)ချမ်းသာအထွဋ်၊ ပြသာဒ်ကိုးဆောင်၊ တက်ရအောင်။

စသည်ဖြင့် စပ်ဆိုတော်မူလိုက်သည်။ ကောင်းမွန်ချောမွေ့ပေစွ၊ သဒ္ဒါခလုပ်ကို စက်နှိုးအောင်လှုပ်တော်မူတတ်ပါပေစွ။

# နိဂုံးယှဉ်ချက်

## ရှင်သီလဝံသစွမ်းရည်

ဤပုဂ္ဂိုလ်ကြီး ၂–ပါးတို့အား (၁)လောကကြောင်း (၂)ရာဇကြောင်း (၃)ဓမ္မကြောင်း ၃–မျိုးတို့ကို မူခံထား၍ နှိုင်းယှဉ်သော် ရှင်သီလဝံသသည် ဓမ္မကြောင်းစာဘက်ကိုသာ အားကြီးနိုင်နင်းတော်မူ၏။

"ရွှေတောင်မားမား၊ ရွှေလိပ်တွားသို့"စသည်ဖြင့် ကိုယ်တော်တိုင်စပ်ဆိုသည့်အတိုင်း စပ်ဟပ်စီကုံးသမျှသည် တရားကျမ်းဂန်နှင့်လွတ်သည်မရှိ၊ တရားကျမ်းဂန်တည်းဟူသော "ရွှေတောင်ကြီး"ကို ကဗျာဉာဏ်တည်းဟူသော "ရင်ဘတ်ပြင်"ဖြင့် မလွတ်တန်းစပ်ဆိုတော်မူနိုင်၏ဟူလို။ (ဆရာကြီးဦးဝဇီရဉာဏ်အတိုင်း မိန့်ဘူး၏)။

ထို့ကြောင့် စည်ကြီးသံနှင့်လည်း ပမာပေးကြသည်(စည်ကြီးသံကား သာယာနာပျော်ဘွယ်မရှိလှ, အဝေးသို့ပေါက်ကြားအောင် နက်နဲသည်ဟူလို) သာယာနာပျော်ဘွယ် မရှိလှခြင်းသည် ကဗျာပညာ၏အကြီးဆုံးသောချို့ယွင်းချက်တခု ဖြစ်ပေတော့၏။

ကဗျာဝေါဟာရဘက်တွင်လည်း တရားဓမ္မနှင့်ပတ်သက်လျှင်သာ များစွာနိုင်နင်း၏။ လောကဝေါဟာရ ရာဇဝေါဟာရများကိုမူ မနိုင်လင်းလှသည်မှာ ဧကန်ဖြစ်သည်။

စိတ်နှလုံးသိမ်မွေ့တော်မူလျက် တရားရည်ဝသော ပုဂ္ဂိုလ်ကြီးဖြစ်သည့်ပြင် လောကကို မုန်း၍ လောကမှထွက်ရာ လောကုတ္တရာစခန်းကိုသာ ဦးတည်သောသဘော ရှိရကား ဘုံသုံးပါး၏ငြီးငွေ့ဘွယ်ကောင်းသော ဉာဏသံဝေဂ–ဓမ္မသံဝေဂများကို စပ်ရာတွင် များစွာ နိုင်နင်းပါပေသည်။ လောကမှလွတ်ရာ သံသရာ၏အကန့်အကွက် ဝဋ်စက်လှည်းဘီးကို ချိုးဖျက်နိုင်ကြောင်းဖြစ်သည့်ဒါနခဏ်း, သီလခဏ်း, စသည်များကိုလည်း ပိုင်နိုင်အောင်

စပ်ဆိုနိုင်စွမ်းလှပါပေ၏။ ပါရမီတော်ခဏ်းတို့ကြောင့် ဤမျှကောင်းရသည်၊ ရှင်သီလဝံသ စပ်ဆိုသမျှ ပါရမီခဏ်းသည် အကောင်းဆုံးပေတည်း။

ရှင်သီလဝံသသို့(သို့မဟုတ်)ရှင်သီလဝံသနီးနီး သဘောထားရှိသော သူတော်သူမြတ် ကျမ်းတတ်စာဆိုမှန်သမျှ ရှင်သီလဝံသစာကိုသာ အကြိုက်များကုန်၏။ အတုယူကုန်၏။ အလေ့အလာများကုန်၏။ အတန်ငယ်ပြရသော် ရှင်သီလဝံသ၏ပါရမီခဏ်း ဒါနပါရမီ ၆၂ ပိုဒ်မြောက်၌

မပေးစွန့်လျက်၊ သူခံလျက်တည့်၊ ဝက်၍လည်းကောင်း၊ မတောင်းဝံ့စေ၊ မဆွေရစိတ်၊ ဆို့ပိတ်လက်တည်း၊ ပစ္စည်းနိုင်ငံ၊ လိုက်၍ကြံသော်။

ဟူ၍စပ်ဆိုထားသော ကဗျာကို ကျမ်းတတ်အကျော်ဆရာတော်ဦးဗုဓ်၏သံဝေဂလေးချိုးကြီး၌၊

မဆွေရစိတ်၊ ချွန်းနှယ်ချိတ်၍၊ ညာနိဗ္ဗုတာ၊ ရောက်နိုင်ပါသေးသမျှ၊ ဤကာယအပုပ်ကောင်ကို၊ မယုတ်အောင် စာရေကျွေးလို့ရယ်...မွေးရပြန်ခဲ့။

ဟုလိုက်ထားပေသည်။ ပုဂ္ဂိုလ်တဦးတည်းပင် ဖြစ်ပစေ ဓမ္မကြောင်းဆိုင်ရာ သံဝေဂခဏ်း၊ နိဗ္ဗိန္ဒခဏ်းတို့နှင့်သက်ဆိုင်လျှင် ရှင်သီလဝံသစာကို အားထား အတုယူလေ့ရှိ၏၊ ရှင်သီလဝံသပင် စပ်သော သံဝေဂခဏ်းပျို့တွင်–

ဇာတိသန္ဓေ၊ ဘုတ်ကိုမွေ၍၊ အနေဆင်းရဲ၊ မိဝမ်းထဲ၌၊ အစွဲသိမ်မွေ့၊ ကိုယ့်မျိုးစေ့ကို၊ အောက်မေ့လိုက်လျှင်၊ ဖြေမရွှင်ခဲ့။

စသည်ဖြင့် (စတင်)စပ်ဆိုထားပုံများမှာ နေ့ရောညပါ ရွတ်ဆိုပြီး သံဝေဂယူနေဘို့သာ ကောင်းသည့်အစပ်အဟပ်များ ဖြစ်တော့သည်။

ရှင်သီလဝံသသည် ဆန်း အလင်္ကာ သဒ္ဒါပရမတ် ပညတ်ဝေါဟာရလောကရေးရာအဖြာဖြာတို့ထက် (သင်ရိုး)အလွန်ကြေပုံရသည်။ အထောက်အထားများစွာ ရနိုင်သော်လည်း မပြပြီ။ စာများသည် ရိုး၏။ လေးနက်၏။

ဘုရင်အလိုသို့ကား အတန်လိုက်လျောပုံရသည်။ ရွှေနန်းတည်မော်ကွန်းကို နှစ်ပါးလုံးရေးသားရန် လျှောက်ရာ ရှင်ရဋ္ဌသာရကား ငြင်းပယ်၏။ ရှင်သီလ ဝံသကား မငြင်းပယ်၊ ထို့ကြောင့် ဘူရိဒတ်ဇာတ်ပေါင်း၌ ရှင်ရဋ္ဌသာရက–

ငါတို့သဘော၊ လူနှင့်နှော၍၊ မရောမယှဉ်၊ အော, အဉ်မလိုက်။

စသည်ဖြင့် ယုတ်မြတ်–၂–ကွဲ ဆင်းရဲချမ်းသာ မရွေးကြောင်း မင်းပါးစိုးခွင် ထွက်ဝင်ချောပစ်ခြင်း မရှိကြောင်းများ စပ်ဆိုထား၏။

## ရှင်ရဋ္ဌသာရစွမ်းရည်

ငါးရာဇကော်ဒက်၊ ကောင်းဟုတ်ဗေဒင်၊ သသ်ကရိုက်။လ။သူငယ်က ပင်၊ ပဏ္ဍိအင်နှင့်၊ စာသင်မွေ့လျော်။

ဟူသောဇာတ်ပေါင်းနှင့်အညီ ငယ်စဉ်ကပင် ပညာအမျိုးမျိုးတို့ကို ဒိုးကဲ့သို့ မွေ့ခဲ့၏။ ထီးနန်းအမှုအရာ ဝါစာသိမ်မွေ့ပြည်ကြီးသူတို့ဓလေ့များကိုလည်း ကိုယ်ပိုင်စကား ကိုယ်ပိုင်အလေ့များကဲ့သို့ နိုင်နင်းတော်မူ၏။ သိရှိနားလည် ၏။ ကျမ်းနှံ့၏။ အချုပ်ကိုဆိုသော် (၁)လောက (၂)ဓမ္မ (၃)ရာဇ သုံးမျိုး လုံး နိုင်၏။

အရှင်မြတ်ရေးသားသည့်စာတို့သည် ထန်းတက်သူနှင့်တူ၏ဟုရှေး ကဆိုကြ၏။ ထန်းတက်သွားသည် ဝမ်းပိုက်နှင့်ထမ်းပင် အမြဲလွတ်ရ၏။ ခြေထောက်နှင့်ထမ်းပင်ကို ထိသည့်အခါထိ လက်နှင့်ထိသည့်အခါ ထိရ၏။ တရားကျမ်းဂန်ကို မထိတချက် ထိတချက်ဟုဆိုလိုသည်။

အချို့ရဟန်းဆရာကြီးများကမူ "နှဲ, ပြွေဝံသ၊ သုသိရဟု၊ ဃနအ ပြား"စသော ဇာတ်ပေါင်းစကားများနှင့်အညီ တူရိယာငါးပါး တပြိုင်နက်တီး

မှတ်သည်နှင့်တူကြောင်း ဆိုကုန်၏။ သာယာနာပျော်ဘွယ်ကား ရှိလှ၏။ အဝေးသို့မကြားဟူလို။

ကျွန်ုပ်တို့ကား ရှင်သီလဝံသစာသည် ဆေးခါးကြီးနှင့်တူကြောင်း၊ ရှင်ရဋ္ဌသာရစာသည် ဆေးချိုဆေးအေး, ဆေးမွှေးနှင့်တူကြောင်း ဆိုချင်၏။ သံသရာသွားဇာတိဇရာစသော ၉၈ ပါးတို့ကြောင့် လုံးပါး,ပါးနေသော အချင်းလူမမာသည် အဘယ်ဆေးကို သောက်မည်နည်း၊ ရှင်ရဋ္ဌသာရကား တရားကျမ်းဂန်ဟူသောဆေးကို ကဗျာဉာဏ်အချိုအမွှေးတို့ဖြင့် လိုလေသေးမရှိအောင် ဖေါ်စပ်ထားခြင်းဖြစ်ရကား မနက်နဲဟူ၍၎င်း ကျမ်းဂန်နှင့်တစပ်တည်း မသွားဟူ၍၎င်း အပြစ်ဆိုဘွယ်မရှိ။ အချိုအမွှေးမထည့်သော် ဤမျှကောင်းမည်မဟုတ်။ လူကြိုက်များမည် မထင်။ ရောဂါပျောက်ခြင်း တူမျှသော်လည်း ချိုဇသောဆေးက သာပေလိမ့်မည်။

သက်တော်တရာ၊ ခန္ဓာမြင့်ရှည်၊ တည်စိမ့်သောကြောင်း၊ ရေချမ်းလောင်း၍၊ ဆုတောင်းတုံတုံ၊ မေတ္တာဟုံလျက်။ ။သုံးပုံကျမ်းခဲ၊ စစ်မြေပွဲ၌၊ စွမ်းရဲအောင်မြင်၊ လက်ရုံးအင်ဖြင့်။ နတ်ရှင်ကိုယ်စား၊ တရားမှုထမ်း၊ ငယ်ကြွမ်းဆရာ၊ ရဋ္ဌသာ”။ ။

ဟုစပ်ဆိုထားသည်မှာ နောက်ရဟန်းပညာရှိတို့အဖို့ အားကျဘွယ်ကြီးပေတည်း။ နရပတိမင်းကြီးကို လောကစစ်သည်သူရဲကောင်းပမာ ချီးမွမ်းခဲ့ပြီး၍ မိမိကိုယ်ကို ပိဋကတ်စစ်သူကြီးအဖြစ် ဖေါ်ပြလိုသည်။ မာနအတန်ကြီးသောကြောင့် ဘုရင်နှင့်အခန့်မသင့်စဉ် သဘောကွဲလွဲသော်လည်း ပြီးလျှင်ပြီးသည်သာ၊ “အရင်းအချာ၊ ငါ့တကာနှင့်၊ ငါသာရဟန်း၊ လူဝယ်ထွန်းသို့”စသောစကားများကို ထောက်ထားသင့်၏။

မြန်မာစာဆိုတော်တို့ကို (၁)ပဌမတန်းစား (၂)ဒုတိယတန်းစား (၃)တတိယတန်းစားဟူ၍ အကြမ်းအားဖြင့် ၃–မျိုးလောက် ခွဲဝေနိုင်ကုန်၏။ ထိုအချက်ကို ထင်ရှားအောင် အတန်ငယ်ဖော်ပြပါအံ့။ ရှေးဟောင်းအင်းဝခေတ်

တခေတ်တည်းမှာပင် (၁)ရှင်မဟာရဋ္ဌသာရ (၂)ရှင်မဟာသီလဝံသ (၃)ရှင်အဂ္ဂသမာဓိ သုံးပါးတို့တွင် (၁)ရှင်ရဋ္ဌသာရသည် ပဌမတန်းစားဖြစ်၏။ (၂)ရှင်သီလဝံသသည် ဒုတိယတန်းစား ဖြစ်၏။ (၃)ရှင်အဂ္ဂသမာဓိသည် တတိယတန်းစားဖြစ်၏။

ရှင်ရဋ္ဌသာရသည် (၁)ပါဠိဘာသာကို စာပေနှင့်တကွ ကောင်းစွာတတ်မြောက်၏။ (၂)သသ်ကရိုက်ဘာသာကို စာပေနှင့်တကွ ကောင်းစွာတတ်မြောက်၏။ (၃)မြန်မာဘာသာကို စာပေနှင့်တကွ ထိပ်တန်းပညာရှိကြီးအနေအထိ ကောင်းစွာ တတ်မြောက်၏။ ဤ၌ ရှေးဟောင်းကဗျာစာပေများ, ရာဇဝင်စာပေများ ကျောက်စာများနှင့်တကွ များစွာသော အရာတို့၌ သိမြင်နိုင်, ဆုံးဖြတ်နိုင်လောက်အောင် တတ်မြောက်၏ဟု ဆိုလိုသည်။ (၄)ဗေဒ, ဗေဒင်ဟု ဆိုအပ်သော ပညာရပ်တို့၌ ကောင်းစွာ တတ်မြောက်တော်မူ၏။ (၅)ဓမ္မသတ်, ရာဇသတ်, ဖြတ်ထုံးတို့ကိုလည်း ကောင်းစွာတတ်မြောက်၏။ (၆)အရာရာ၌ လောက, ဓမ္မ, ရာဇ(သို့မဟုတ်)ရှင်မှု, လူမှု, တို့ကို ပိုင်းဖြတ်ညွှန်ကြားတော်မူနိုင်သော အသိဉာဏ်နှင့်ကောင်းစွာ ပြည့်စုံတော်မူ၏။ (၇)ပဋိသန္ဓေဉာဏ်အားဖြင့် ထက်မြက်စူးယှတော်မူသောကြောင့် ရေးသား, ဟောကြားသမျှတို့၌ ပိုင်နိုင်ခြင်း, ပြည့်ဝခြင်း, သင့်လျော်မှန်ကန်ခြင်း...စသောဂုဏ်အင်္ဂါတို့နှင့်ပြည့်စုံရုံမျှမက နောက်သားတို့ အလေးပြုမှီခိုလောက်သောဂုဏ်ကြက်သရေအပေါင်းတို့နှင့် များစွာပြည့်စုံတော်မူ၏။

ရှင်သီလဝံသသည် ထိုအင်္ဂါလက္ခဏာတို့နှင့် ၅-ပုံ ၃-ပုံမျှသာ အများဆုံးပြည့်စုံတော်မူ၏။

ရှင်အဂ္ဂသမာဓိကား ထိုဆိုအပ်ခဲ့သော အင်္ဂါလက္ခဏာတို့နှင့် ၅-ပုံ ၂-ပုံခန့်မျှသာလျှင် ပြည့်စုံတော်မူ၏။

အချုပ်အားဖြင့် မြန်မာနိုင်ငံတွင် ပျို့ကျမ်းပေါင်း(၁၅၀)ကျော်(၂၀၀)မျှ ရှိသည့်အနက် (သို့မဟုတ်) လေးလုံးစပ်ကဗျာ လင်္ကာပေါင်းအထောင်

မက ရှိသည့်အနက် ရှင်ရဋ္ဌသာရ၏ကိုးခန်းထက် ကျော်လွန်သော ကဗျာကျမ်းတစောင်မျှ ယနေ့တိုင် မတွေ့ရသေးချေ။ ကြားလည်း မကြားရသေးချေ။